ဟာဇရသ်မောင်လာနာပီးရ်ဇွလ်ဖေ့ကားရ်ဆွာဟိဗ်

ဟောကြားအပ်သော

# ဇနီးမောင်နှံတို့ အထီးမကျန်စေဖို့ နည်းမှန်များ




ပြန်ဆိုသူ

မုဖ်သီ မုဟာမ္မဒ် အာခွင်းမ်

နဒ်ဝီ၊အဗ္ဗလ်ဟာစနီ၊မဇ္ဇာဟေ့ရီ






سلسلة المطبوعات (١٠) ١٤٣٨هـ ٢٠١٧م

အဗူဆဝိဒ္ဒီးက်(Al-Kausari) စီစဉ်သည်။

(ကန့်သတ်)



**လေးစားအပ်သော စာရှုသူသို့** ……

ဆောင်လိုက်ရတဲ့ မင်္ဂလာ၊ ကွဲလိုက်ရတဲ့ လင်မယား၊ မိုးမွှန်နေတဲ့သွလားက်၊ ဇေနာတွေနဲ့ မွမ်းကြပ်နေတဲ့ ကမ္ဘာကြီးမှာ ကျွန်ုပ်တို့ဟာ မှီတင်းနေထိုင်နေရပါတယ်။

လူတွေက အိမ်ထောင်ရေးကို ဖွဲ့စကွဲအဆင့်သတ်မှတ်ထားတယ်။ ဘူးသီး ခရမ်းသီးဝယ်သလို မကြိုက်ရင်ပြန်လဲလို့ရတယ် ဆိုတဲ့ခံယူချက်တွေနဲ့ အိမ်ထောင်ပြုသူတွေကပြုနေကြတယ်။

လူငယ်တွေကလည်း "အိမ်ထောင်ရေးတစ်ခု ထူထောင်ဖို့ဆိုတာ ရှုပ်ထွေးလွန်းတယ်။ ဇေနာရဲ့ လမ်းကြောင်းကို ရွေးချယ်တာပဲ ကောင်းပါတယ်"လို့ ပေ့ါပေ့ါလေးပြောနေကြပါတယ်။

ဒါတွေဟာ ကျွန်ုပ်တို့နေထိုင်နေတဲ့ပတ်ဝန်းကျင်၊ ကြည့်ရှုနေတဲ့ ဇာတ်လမ်းတွေကမျိုးစေ့ချပေးလိုက်တဲ့ အဆိပ်ပင်တွေပါပဲ။

အလ္လာဟ်အရှင်မြတ်က လောကရဲ့ လည်ပတ်မှုစနစ်ကို သာယာလှပတဲ့ အိမ်ထောင်မှုဘဝ တည်ဆောက်ခြင်းပေါ်မှာ တည်ထားပါတယ်။ အိမ်ထောင်ပြုရာမှ လူ့အသိုက်အဝန်းတစ်ခုဖြစ်တည်လာမယ်။ ဒီကနေတဆင့်ပဲ စစ်မှန်တဲ့မျိုးဆက်တွေ ပေါ်ထွက်လာမှာမဟုတ်လား။

သာယာအေးချမ်းတဲ့ အိမ်ထောင်ရေးတည်ဆောက်ဖို့ ဇနီးမောင်နှံနှစ်ဦးဟာ ဗိသုကာကြီးတွေဖြစ်ပါတယ်။ အိမ်'သာမှ ဧည့်'လာမယ်ဆိုတဲ့ ဆိုရိုးလည်းရှိတယ်မဟုတ်လား။

ဒါ့ကြောင့် ရှရီအသ်တရားတော်မြတ်က ဇနီးမောင်နှံနှစ်ဦးလုံးကို





မည်သို့မည်ပုံ သာယာတဲ့အိမ်ထောင်ရေးတစ်ခု တည်ဆောက်ရမယ် ဆိုတဲ့ နည်းလမ်းတွေကို အကျယ်တဝင့် အသေးစိတ် တင်ပြထားပါ တယ်။ ကျွန်ုပ်တို့ ချစ်နဗီ ﷺ ကလည်း စံပြအိမ်ထောင်ရေးကို ကိုယ်၊ နှုတ်၊ နှလုံး သုံးပါးလုံးနဲ့ ပြသခဲ့ပါတယ်။ အိမ်ထောင်ရေးကို အချစ်နဲ့ တည်ဆောက်ရမယ်။ ကြင်နာခြင်းရဲ့ လမ်းခင်းထားရမယ်။ ယုယမှု တွေနဲ့ရံထားရမယ်။ဆိုတဲ့ သဘောတရားတွေ အွမ္မှသ်ကို ချပြခဲ့ပါတယ်။

ဤသဘောတရားတွေ မေ့လျော့နေတဲ့ အွမ္မှသ်ကို ကိုယ်တော့်ရဲ့ အမွေစားအမွေခံများဖြစ်ကြတဲ့ အာလင်မ်များက အမြဲသတိပေးလျှက် ရှိနေပါတယ်။

အဲဒီလို သတိပေးချက်တွေထဲမှာ ကျေးဇူးရှင် ဆရာသခင်ကြီး ဟဇရသ် မောင်လာနာ ပီးရ်ဇွလ်ဖေ့ကားရ်ရဲ့ ဟောကြားချက်တွေဟာ အလွန်ပဲထိရောက်လှပါတယ်။ ဇနီးမောင်နှံနှစ်ဦးလုံး သာယာလှပတဲ့ အိမ်ထောင်ရေးတစ်ခု ထူထောင်နိုင်ဖို့ ဘယ်လို အချက်တွေကို ဆောင် ရမယ်၊ ရှောင်ရယ်ဆိုတာတွေကို စေတနာအပြည့်နဲ့ တင်ဆက်ထားပါ တယ်။ ထိုတင်ဆက်ချက်တွေကို အများအကျိုးရှိစေဖို့ မြန်မာဘာသာ သို့ ပြန်ဆိုလိုက်ရပါတယ်။

မြန်မာ့မြေမှ အိမ်ထောင်ရှင် ဇနီးမောင်နှံများအားလုံး လေ့လာ မှတ်သားလိုက်နာ ကျင့်သုံးနိုင်ကြပါစေလို့လည်း ရင်နှင့်အမျှ ဆန္ဒပြု ဆုမွန် ချွေပါတယ်။

ဤစာအုပ်ဖြစ်မြောက်စေဖို့ အကျိုးအကြောင်းညီညွတ်စေတော်မူ သော အရှင်မြတ်ကိုလည်းကောင်း၊ မူရင်း video clip ကို down

load လုပ်ပေးခဲ့သော ဟာဂျီမုဟမ္မဒ်သွလ်ဟားကိုလည်းကောင်း၊ Lay out ပိုင်းကို တာဝန်ယူပြီး စီစစ်တည်းဖြတ်ပေးခဲ့သော ချစ်မိတ်ဆွေ ဆရာမုဟမ္မဒ်(အလ်ကောင်ဆရီ)တို့ကိုလည်းကောင်း ရင်ထဲအသည်းထဲတွင် ကျေးဇူးကမ္မည်း မော်ကွန်းတင်အပ်ပါသည်။

အရှင်မြတ်၊ အားလုံးကို နှစ်ဘဝနှစ်ဌာနလုံးမှာ ကောင်းသော အစားများချီးမြှင့်ပေးသနားတော်မူပါစေ။ အာမီးန်

ဘာဝူစမ်ဟား

နန်ဒီ၊ ဘာဝှလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ

၁၂၊၁၂၊၂၀၁၇





# သာယာလှပသည့် အိမ်ထောင်ရေး

# တစ်ခုတည်ထောင်နိုင်ရန်

# ခင်ပွန်းသည်တို့ လိုက်နာရမည့်

# ကျင့်ဝတ် ဝတ္တရားများ



الحمد لله وكفى وسلام على عباده الذين اصطفى ، أمابعد ؛ أعوذ بالله من الشيطان الرجيم ، بسم الله الرحمن الرحيم . ﴿وعاشروهن بالمعروف﴾﴿وأخذن منكم ميثاقا غليظا﴾. سبحن ربك رب العزة عمايصفون ، وسلام على المرسلين والحمد لله رب العالمين . اللهم صل على سيدنا محمد وعلى آل سيدنا محمد وبارك وسلم .

**ဇနီးမောင်နှံနှစ်ဦးတို့၏ တာဝန်များ**

ဘဝသက်တမ်းရဲ့ အဓိကရည်ရွယ်ချက်ဟာ မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်ရဲ့ ကျေးကျွန်ပီသကြောင်း ထုတ်ဖော်ပြသဖို့ပဲဖြစ်ပါတယ်။ အိမ်ထောင်ပြုပြီးတဲ့အမျိုးသားအတွက် ဘဝမှာ တာဝန်တွေအများကြီးဖြစ်သွားပါတယ်။ ပမာဆိုရသော် ဟလာလ်ရိုဇီရှာဖွေဖို့၊ ဖန်ဆင်းခံအချင်းချင်းကြားမှာရှိတဲ့ တာဝန်တွေကြေပြွန်ဖို့၊ အရှင်မြတ်နဲ့ ပတ်သက်တဲ့ တာဝန်တွေကြေပြွန်ဖို့၊ သာသနာဖြန့်ချိရန်အတွက် ကြိုးပမ်းအားထုတ်ဖို့၊ သာသနာ့အသိပညာရှာဖွေဖို့ စသည်ဖြင့်။

ဤနည်းအတိုင်းပင် ဇနီးသည်အပေါ်လည်း တာဝန်တွေ၊ ဝတ္တရားတွေအသီးသီးရှိပါတယ်။ ရင်သွေးငယ်တွေကို ပြုစုပျိုးထောင်ဖို့၊ သူတို့လေးတွေ လိမ္မာရေးခြားရှိစေရန် သောကထားဖို့၊ အိမ်ရဲ့ ဝေယျာဝိစ္စတွေဆောင်ရွက်ဖို့၊ အရှင်မြတ်ရဲ့ ခဝပ်မှုပြုဖို့ စသည်ဖြင့်။

ဒီတော့ ခင်ပွန်းမှာလည်း တာဝန်ကိုယ်စီရှိသလို၊ ဇနီးမှာလည်း ကိုယ်စီတာဝန်တွေရှိနေတယ်။ ဒီတာဝန်ဝတ္တရားတွေကို ကျေပြွန်စွာ





ထမ်းဆောင်ရင်းနဲ့ ကိုယ့်ခန္ဓာကိုယ်ရဲ့ လိုအပ်ချက်တစ်ချို့ကိုလည်း ဖြည့်ဆည်းဖို့လိုပါတယ်။

**အရာအားလုံးလည်ပတ်နိုင်ရန် စနစ်တစ်ခု**

မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်က ထိုလိုအပ်ချက်တွေကို ဖြည့်ဆည်းနိုင်ဖို့စနစ်တစ်ခုကို စီစဉ်ပေးထားပါတယ်။ လွယ်လွယ်လေးရှင်းပြရရင် သာမန်လူတိုင်းဟာ စားသောက်ပြီး (၈)နာရီလောက်ကြာရင် ဗိုက်ဆာလာတယ်။"လောကမှာ အချိန်အမှန်ဆုံးနာရီဟာ ဝမ်းဗိုက်ရဲ့နာရီပဲဖြစ်တယ်" လို့ ရှေးလူကြီးတွေဆိုထားပါတယ်။ ဒါ့ကြောင့် ဝမ်းဗိုက်ရဲ့ဆာလောင်ခြင်းကို တနည်းနည်းနဲ့ ပြည့်အောင်ဖြည့်ပေးရပါတယ်။ ဒီကနေ ဘာသိရလည်းဆိုတော့ ဗိုက်ဆာ၊ရေဆာခြင်းမှာ စနစ်တစ်ခုရှိတယ်။ သူဟာ (၈)နာရီခြား တစ်ခါလည်ပတ်တယ်။ ဒီအတိုင်းပဲ အိပ်စက်အနားယူခြင်းဆိုင်ရာ စနစ်တစ်ခုလည်းရှိပြန်တယ်။ ဒီနေ့ည (၁၀)နာရီအိပ်တယ်ဆိုရင် နောက်နေ့(၁၀)နာရီလောက်ဆို ပြန်အိပ်ချင်လာမယ်။ သူ့ရဲ့ လည်ပတ်မှုစနစ်ဟာ (၂၄)နာရီကြာတယ်လို့ ဆိုရလိမ့်မယ်။

ဒီအတိုင်းပဲ လက်ထပ်ပြီးတဲ့ ဇနီးမောင်နှံနှစ်ဦးဟာ မိမိတို့ရဲ့ ကာမဂုဏ်အာရုံကို ဖြေဖျောက်ဖို့အတွက်လည်း စနစ်တစ်ခုရှိရပါတယ်။ လက်ထက်ပြီးစအချိန်မှာတော့ ခနခန ဖြည့်ဆည်းမှုတွေဖြစ်လိမ့်မယ်။ ဇရာထောင်းလာရင်တော့ အတိုင်းအတာတစ်ခုကြာမြင့်ပြီးမှသာ ယာဂ ဖြေဖျောက်မှုတွေဖြစ်လာမယ်။

**ကာမဂုဏ်အာရုံဖြေဖျောက်ဖို့ ရှရီအသ်ရဲ့ ရှေ့ရောင်လမ်းညွှန်ချက်**

ရှရီအသ်ရဲ့ သင်ကြားပေးမှုကတော့ ဇနီးမောင်နှံနှစ်ဦးဟာ အပတ်စဉ် အနည်းဆုံးတစ်ကြိမ်ပေါင်းသင်းဆက်ဆံရမယ်။ သောကြာနေ့ဆိုတာ ကျွန်တော်အတွက် အားလပ်ရပ်လိုပါပဲ။ ဒီအချက်ကို အခြေခံပြီး ကိုယ်တော်မြတ်ﷺ မိန့်တော်မူတယ်။ "من غسل واغتسل يوم الجمعة ......" "မည်သူမဆို သောကြောနေ့မှာ ကိုယ်တိုင်လည်း ရေချိုးမယ် ဇနီးသည်လည်း ရေချိုးနိုင်ဖို့ စီစဉ်ပြီးနောက် ......ဗလီကို စောလျှင်စွာသွားပြီး အဟောသိကစကားတွေမပြောမိရင် ခြေတစ်လှမ်းအတွက် (၁)နှစ် ရိုဇာ၊နမားဇ်ဖတ်တဲ့ ဆဝါးဗ်ရမှာဖြစ်ပါတယ်။"

رواه النسائي ، كتاب الجمعة ، فضل غسل يوم الجمعة، ر:١٣٨١

ရှရီအသ်ရဲ့ ရှုထောင့်ကနေကြည့်ရင် သောကြာနေ့မှာ ရေချိုးသန့်စင်လိုက်ခြင်းဟာ ခန္ဓာကိုယ်ရဲ့ အညစ်အကြေးသက်သက်ကို သန့်စင်အောင်လုပ်တာ မဟုတ်ဘဲ စိတ်မှာ ယာဂစိတ်ရိုင်းရဲ့ ညစ်ညမ်းတဲ့ ကိလေသာတွေကိုပါ သန့်စင်အောင်ပြုလုပ်ခြင်းဖြစ်ပါတယ်။

မိမိလိုအပ်ချက်ကြောင့်ရေချိုးလိုက်ရဖြင်းဖြစ်သော်ငြားလည်း အရှင်မြတ်ကဆဝါးဗ်များချီးမြှင့်ထားပါတယ်။ အမျိုးသားဟာ (၁)နှစ်ရိုဇာနမားဇ်ဖတ်တဲ့ ဆဝါးဗ်ရပြီး၊ မိမိဇနီးကို ရေချိုးပေးတဲ့ ဆဝါးဗ်လည်း ရမှာဖြစ်တယ်။ အခြားဟဒီးဆ်တော်တစ်ပုဒ်မှာ "သံ၀သပြုပြီးမသန့်ဖြစ်ချိန် ရေချိုးလိုက်ချိန် ကျလာတဲ့ ရေတစ်ပေါက်တိုင်းအတွက် ကောင်းမှုတစ်ခုစီရေးမှတ်ပေးခြင်းခံရမယ်" လို့ ကိုယ်တော်မြတ်ﷺ က မိန့်ထားပါတယ်။ အခြားဆဝါးဗ်တစ်ခုကတော့ ဂျိုမုအဟ်နှစ်ခုကြားမှာ ကျူးလွန်မိသမျှ ဆွဂီရဟ်ဂိုနာတွေကို အလ္လာဟ်အရှင်မြတ် ပလပ်ပေးမှာဖြစ်





ပါတယ်။

ဘယ်လောင်တောင် လှပတဲ့သာသနာတော်လဲ။ လူသားတွေရဲ့ စားခြင်း၊သောက်ခြင်း၊ ယာဂစိတ်ဖြေဖျောက်ခြင်းတို့ကိုပါ စနစ်တကျဂရု တစိုက်လမ်းညွှန်ပေးထားပါတယ်။ ဇနီးမောင်နှံနှစ်ဦးဟာ ဆဝါးဗ်ရဲ့ နိယသ်နဲ့ ဆောင်ရွက်မယ်ဆိုရင် မိမိတို့ရဲ့ ယာဂလည်းပြေပျောက်အုံးမယ်၊ ဆဝါးဗ်လည်းရအုံးမယ်လို့ပါ တိုက်တွန်းညွှန်ထားပါသေးတယ်။ ဒါကိုပြောတာ “အချိုလည်းစား၊ ဆဝါးဗ်လည်းယူ” ဆိုတာ။

ပြောချင်တာက ဇနီးမောင်နှံနှစ်ဦးဟာ မိမိတို့ရဲ့ ကာမဂုဏ်အာရုံကို လျော့ချဖို့အတွက် သတ်မှတ်ကာလတစ်ခုရှိတယ်။ ဒီလိုလျော့ချပြီးတာနဲ့ အမျိုးသားကလည်း မိမိလုပ်ငန်းဆောင်တာတွေမှာ တစိုက်မတ်မတ်နစ်မွန်းလို့ရတယ်။ အမျိုးသမီးကလည်း မိမိတာဝန်တွေကို အာရုံအပြည့်နဲ့ ဆောင်ရွက်နိုင်မှာဖြစ်တယ်။

ပင်လယ်ကမ်းခြေမှာနေသူတွေဟာ ပင်လယ်ရေမျက်နှာပြင် မြင့်တက်သွားခြင်းနဲ့ လျော့ကျသွားခြင်းတွေကို လစဉ်ကောင်းကောင်း နားလည်ကြတယ်။ (၁၄၊၁၅) လပြည့်ရက်တွေမှာ လှိုင်းတံပိုးတွေဟာ အမြင့်၁၀ပေလောက်ထိ မြင့်တက်လာတယ်။ လဆန်းပိုင်းရက်တွေမှာတော့ ငြိမ်သက်နေတာတွေကိုတွေ့ရတယ်။

ဒီတိုင်းပဲလူ့ရဲ့ ယာဂစိတ်အဟုန်ပြင်းပြခြင်း၊ လျော့ကျသွားခြင်းတို့ဟာလည်း သံဝါသပြုပြီးချိန်လျော့သွားပြီး၊ ရက်အတန်ကြာပြီးတာနဲ့ ပြန်လည်မြင့်တက်လာပါတယ်။




**အရှင့်ဟာစ်ကမ်မသ်**

ဒီလိုနိမ့်ကျစေခြင်း၊မြင့်တက်စေခြင်းတို့မှာ အရှင်မြတ်ရဲ့ ဟစ်ကမ်မသ်တော်တွေ အများကြီးရှိနေပါတယ်။ အမြဲယာဂစိတ်အဟုန်ပြင်းထန်နေမယ်ဆိုရင်လည်း အမျိုးသားတွေဟာ အိမ်ကမခွာတော့ဘဲ နေကြမယ်။ ဘာစီးပွားရေး၊ ဘာအလုပ်မှလည်းလုပ်နိုင်တော့မှာမဟုတ်တော့ဘူး။ အမျိုးသမီးတွေဟာလည်း အမျိုးသားရင်ခွင်မှာအချိန်ပြည့်ရှိနေမှာဖြစ်ပြီး သားသမီးအရေး၊ အိမ်မှုကိစ္စအရေးတွေကို ဆောင်ရွက်နိုင်တော့မှာ မဟုတ်ဘူး။

မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်က လှပတဲ့ ဘဝနေထိုင်မှုစနစ်တစ်ခု ပြထားလိုက်တယ်။ ကာလခြားပြီး သံဝါသပြုဖို့ လမ်းညွှန်တယ်။ ဒါမှ ကျန်းမာရေးလည်းကောင်းမယ်။ အချစ်နှောင်ကြိုးတွေလည်း ခိုင်မြဲလာပြီး နွေးထွေးတဲ့မေတ္တာတရားတွေကို ခံစားတတ်လာမယ်။ တစ်ပတ်မှာတစ်ခါပဲ သံဝါသပြုရမယ်လို့တော့ ရှရီအသ်က လမ်းညွှန်မထားပါဘူး။ လိုအပ်ချက်ဟာ လူတိုင်းအတွက်မတူညီနိုင်ပါဘူး။ အချိန်တိုင်းမှာ ပိုင်တဲ့နည်းနဲ့ဆို ခွင့်ပြုပေးထားပါတယ်။

**အမြင်တစ်ချက်ကြောင့်**

ဒါ့ကြောင့်ကိုယ်တော်မြတ်ﷺ က“အမျိုးသားတစ်ဦးဟာ အပြင်မှာ သွားလာနေရင်း အမျိုးသမီးတစ်ဦးကို မြင်မိပြီးစိတ်ထဲမှာ သံဝါသပြုလိုတဲ့ စိတ်ရိုင်းဝင်လာရင် အိမ်ကိုပြန်လာပြီး မိမိဇနီးနဲ့ ကာမဂုဏ်အာရုံတွေကို လျှော့ချလိုက်ပါ။ သူစိမ်းအမျိုးသမီးပိုင်ဆိုင်ထားသမျှကို အိမ်ကအိမ်ရှင်မလည်း ပိုင်ဆိုင်ထားပါတယ်။” လို့ ရိုးရှင်းစွာမိန့်ထားပါတယ်။

အရမ်းကို နှစ်သက်ဖွယ်ရာ လှပတဲ့လမ်းညွှန်ချက်တွေပါလား။ ကိုယ့်အိမ်မှာအရာရာရှိနေပါလျှက် ဘာကြောင့်အပြင်မှာဂိုနာရှာမှာလဲ။

**ခရီးမသွားခင် ဇနီးနဲ့တွေ့ဆုံပါ**

ထိုနည်းတူစွာပင် ကိုယ်တော်မြတ်ကြီးﷺ ၏ စွန္နသ်တော်တစ်ခုမှာ ခရီးမသွားမီ ဇနီးသည်များနှင့် တွေ့ဆုံခြင်းဖြစ်သည်။ ဟဒီးဆ်တစ်ရပ်တွင် လာရှိသည်မှာ"ကိုယ်တော်မြတﷺ သည် ဟဂ်ျဂျသွလ်ဝဒါအ်တွင် အိဟ်ရာမ်မပြုမီ အားလုံးသော ကြင်ယာတော်များနှင့် တွေ့ဆုံတော်မူခဲ့သည်။"

၎င်းအတိုင်းပင် ခရီးမှပြန်လာချိန် ဇနီးသည်နှင့် တွေ့ဆုံခြင်းသည်လည်း စွန္နသ်ဖြစ်ပါတယ်။

အများသောအားဖြင့် အမျိုးသားသည် ပျော်ရွှင်ချိန်တွင် အမျိုးသမီး အနီးကပ်တတ်ပါတယ်။ ဇနီးတို့သည်လည်း ပူပင်သောကရောက်ချိန် ခင်ပွန်းအနားရှိခြင်းကို နှစ်သက်ကြပါတယ်။

ဒီလိုလူ့သဘာဝရဲ့တောင်းဆိုချက်တွေ၊ သဘောတရားတွေကို ကျွန်တော်တို့ ရှရီအသ်က နားလည်အောင်တင်ပြပေးထားတယ်။

**ရှိုင်သွာန်ရဲ့ ကျော့ကွင်းမှ လွတ်ကင်းပါစေ**

တချို့အခြေအနေတွေမှာ အမျိုးသား(သို့)အမျိုးသမီးသည် သံဝါသဘက် စိတ်မပါတာလည်းရှိတတ်ပါတယ်။ အမျိုးသားဟာ သူငယ်ခြင်းတွေကြောင့်၊ အလုပ်ကြောင့်၊ တခြားစိတ်မချမ်းဖွယ်ရာတစ်ခုခုကြောင့် စိတ်ပျက်လက်ပျက်ဖြစ်နေတတ်ပါတယ်။ ဒီလိုအခြေအနေမျိုးဟာ ဇနီးမောင်နှံနှစ်ဦးကို အထင်လွဲစေပါတယ်။ ရှိုင်သွာန်ကလည်း

ယုံထင်ကြောင်ထင် ဖြစ်စေမယ့်အကွက်တွေနဲ့ ဇနီးမောင်နှံနှစ်ဦးကို သံသယရဲ့ ကျော့ကွင်းထဲ သက်ဆင်းစေပါတယ်။ ဇနီးသည်ကထင်မယ် "ငါ့ခင်ပွန်းတော့ အပြင်မှာဖောက်ပြန်နေပြီးလားမသိဘူး။" ဒါ့ကြောင့် အခြေအနေတိုင်းအတွက် အဖြေတစ်ခုတည်းထုတ်လို့မရပါဘူး။ တစ်ခါတလေအမျိုးသမီးကိုယ်တိုင် နေထိုင်မကောင်းတဲ့ အခြေအနေ၊ စိတ်မကောင်းစရာတွေ၊ စိတ်သောကရောက်နေတာမျိုးတွေလည်း ရှိတတ်ပါတယ်။

ဒီလိုစိတ်ပျက်လက်ပျက်ဖြစ်နေချိန်မှာ ရှုရီအသ်က ကျွန်တော်တို့ကို ကုသနည်းတစ်ခုတည်း ပြသမထားပါဘူး။ ဒီလိုခံစားနေရရင် အေဗာဒသ်လုပ်တာမျိုး၊ ကျမ်းမြတ်ကုရ်အာန်ရဲ့ သေလာဝသ်လုပ်တာမျိုး၊ ဇိကရ်လုပ်တာမျိုးတွေနဲ့ လည်း စိတ်တည်ငြိမ်မှုတွေကို ဖန်တီးရယူနိုင်ပါတယ်။ ဒါ့ကြောင့် အလ္လာဟ်အရှင်မြတ်က ﴿كذلك لنثبت به فؤادك﴾ "ဒီနည်းအတိုင်းပဲ ငါ အရှင်မြတ်ဟာ ကျမ်းမြတ်ကုရ်အာန်ရဲ့ အကြောင်းခံနဲ့ အသင့်ရဲ့နှလုံးသားကို တည်ငြိမ်စေတော်မူရန် ဖြစ်တယ်။" ကိုယ်တော်မြတ် ﷺ စိတ်သောကရောက်နေချိန် အရှင်မြတ်က ကျမ်းမြတ်ကုရ်အာန်ချပေးပြီး အားပေးတော်မူတယ်။ ကျွန်တော်တို့လည်း စိတ်ဒုက္ခရောက်နေချိန်မှာ ကျမ်းမြတ်ကုရ်အာန်ဖတ်ကြည့်ပြီး စိတ်သက်သာမှုရယူမယ်ဆိုရင် ဘယ်လောက်တောင်ကောင်းလိုက်မလဲ။ စိတ်သောကရောက်နေသူ ကုရ်အာန်ဖတ်ရင် ဘယ်လိုအေးချမ်းမှုတွေ ရရှိလဲ၊ အပူခနေတဲ့ရင်ခွင်ဟာ နမားဇ်ဖတ်ရင်ဘယ်လို အရသာတွေခံစားရတယ်ဆိုတာမျိုးကို စမ်းသပ်ကြည့်ရင်ဘယ်လောက်ကောင်းမလဲ။

ဒါပေမယ့်ကျွန်တော်တို့ ဒီလိုစမ်းသပ်မှုမျိုးတွေကို မသိကြဘူး။ ရုပ်ဝါဒကိုပဲ နားလည်တယ်။ လက်တွေ့ကျကျပဲလိုချင်ကြတယ်။ ကောင်းမှုတွေထဲမှာ အရှင်မြတ်ထည့်ထားတဲ့ စိတ်တည်ငြိမ်မှုကို လူကြီးမင်းတို့ လောကရဲ့ ဘယ်ကိစ္စမှာမှ တွေ့ရမှာမဟုတ်ဘူး။

ဘယ်လိုပဲဖြစ်ဖြစ် စိတ်ပျက်လက်ပျက်ဖြစ်နေချိန်မှာ ဇနီးမောင်နှံနှစ်ဦးဟာ တစ်ဦးကိုတစ်ဦး နားလည်ပေးပါ။ မဟုတ်ရင် ဒီအခြေအနေမျိုးတွေဟာ ပြဿနာမီးမွှေးတတ်ပါတယ်။ ဇနီးကအနားကပ်လိုတယ်။ ခင်ပွန်းက အဝေးကိုထွက်သွားလိုတယ်။ ဇနီးက ခံစားချက်တွေကို ရင်ဖွင့်လိုတယ်။ ခင်ပွန်းကရှောင်ဖယ်ရှောင်ဖယ် လုပ်နေတယ်။

ဇနီးကလည်း ခင်ပွန်းရဲ့ စိတ်ဓါတ်ကျလို့တိတ်ဆိတ်စွာနေတာကို လမ်းခွဲချင်နေတယ်လို့ တလွဲအဓိပ္ပါယ်မပြန်ပါနဲ့။ ခင်ပွန်းကလည်း ဇနီးက စကားတစ်ခုခုရင်ဖွင့်ချင်လို့ ချဉ်းကပ်လာရင် နားထောင်ပေးဖို့ အသင့်ဖြစ်နေရမှာပေါ့။ ရှင်းပြဖို့ဆိုလည်း လက်ခံနားထောင်ပေးပေါ့။

ဘယ်လိုမဆို အိမ်ထောင်ပြုပြီးတဲ့နောက်တော့ ဇနီးမောင်နှံနှစ်ဦးဟာ အသိရှိရှိနဲ့ ဘဝကို ကျော်ဖြတ်ဖို့ ကြိုးစားရမှာပါ။ ဒါဟာ သိပ်မလွယ်တဲ့ကိစ္စပါပဲ။ပြည်ပနိုင်ငံတစ်ချို့မှာ ဥပဒေတစ်ခုကဘာလဲဆိုတော့ (၁၈)နှစ်ဆို မဲပေးလို့ရပေမယ့် (၂၁)နှစ်ဆိုမှသာ အိမ်ထောင်ပြုခွင့်ပေးပါတယ်။ ဘာကြောင့်လည်းဆိုတော့ နိုင်ငံကိုအုပ်ချုပ်ရတာသိပ်မခက်ပါဘူး။ အိမ်ရှင်မကို အုပ်ချုပ်ရတာ ပိုခက်ခဲလို့ပါ။

ရှုရီအသ်ကပြောတယ်။ ဇနီးမောင်နှံနှစ်ဦးလုံးဟာ တစ်ဦးကိုတစ်ဦး အချစ်ရေးမှာ အရှုံးသမားမဖြစ်အောင် ကြိုးစားရမှာပါ။




ဒီနေ့ ဒီအစီအစဉ်မှာ ကျွန်တော် တစ်ချို့ကိစ္စအသေးအမွှားလေးတွေ တင်ပြလိုပါတယ်။ အဲ့ဒါလေးတွေကို လိုက်နာမယ်ဆိုရင်တော့ သာယာလှပတဲ့ အိမ်ထောင်မှုဘဝတစ်ခုဖြစ်ပေါ်လာမှာသေချာပါတယ်။ ခင်ပွန်းဘက်ဆောင်ရွက်ပေးရင် ဇနီးပျော်ရွှင်မယ်၊ဇနီးသည်က ဆောင်ရွက်ပေးမယ်ဆိုရင် ခင်ပွန်းသည်ပျော်သွားပါလိမ့်မယ်။ ကျွန်တော့် ဦးနှောက်ထဲမှာ လာသလောက် ၊ မှတ်ထားသလောက်လေးတွေကိုပဲ တင်ဆက်နိုင်မှာပါ။ လူကြီးမင်းတို့ ထပ်ပြီး ချဲ့ထွင်စဉ်းစားလိုက်မယ်ဆိုရင်တော့ ဒီထက် အဆပေါင်းများစွာ ပေါ်ထွက်လာနိုင်ပါသေးတယ်။

ဘယ်လိုမဆို ကျွန်တော်ပြောမယ့်စကားတွေကို နားထောင်ပြီး ဇနီးမောင်နှံနှစ်ဦး သာယာကြည်နူးစေဖို့အတွက် ချစ်ခြင်းမေတ္တာဟာ ဘယ်လောက်အရေးပါလည်းဆိုတာ သဘောပေါက်သွားပါလိမ့်မယ်။ ချစ်ခြင်းမေတ္တာတွေနဲ့ ခြံယံထားတဲ့အိမ်ထောင်ရေး ဆိုလျှင်တော့ ရှုရိအသ်နဲ့ ကိုက်ညီတဲ့ အေးချမ်းသာယာတဲ့ အိမ်ထောင်ရေးတစ်ခုပေါ့။

**အိမ်ထောင်ရေးတည်ဆောက်တာ ထောင်ကျသွားတာလား**

ဒီနေ့ခေတ်လူငယ်လေးတွေက အိမ်ထောင်ပြုရတာကို ထောင်ကျတယ်လို့ ထင်နေကြတယ်။ နှစ်ဦးလုံးဟာ မှားယွင်းတဲ့ လမ်းကိုရွေးချယ်ကြမှတော့ နေကာပြုခြင်းဟာ ပန်းခင်းလမ်းဖြစ်ရမယ့်အစား ဆူးခင်းလမ်းအသွင်ဆောင်သွားတော့တာပေါ့။

**အသက်ရှည်ဆေးရှိလား**

ဟာသလေးတစ်ခုအရမ်းကို ကျော်ကြားပါတယ်။ "လူငယ်လေးတစ်ယောက်ဆရာဝန်တစ်ပါးဆီရောက်လာပြီး အသက်ရှည်ဆေးပေးဖို့

ပြောတယ်။ ဆရာဝန်က "လက်ထပ်လိုက်ဆိုပြီးပြောတယ်။" ဒီတော့ လူငယ်လေးက အံ့အားသင့်ပြီးပြောတယ်။ အသက်ရှည်ဆေးပေးဖို့ ကျွန်တော်က တောင်းဆိုတာ ။ ဆရာက (အသက်တိုစေမယ့်) အိမ်ထောင်ပြုခြင်းကို ဆေးအဖြစ်ပေးနေတယ်။ "ဘာကြောင့်လဲဆိုတော့ မင်းလက်ထပ်ပြီးရင် အသက်ရှည်လိုတဲ့ အတွေး ဆန္ဒဖြစ်ပေါ်မှာ မဟုတ်တော့ဘူး။" လို့ ဆရာဝန်ကဖြေလိုက်တယ်။

**ဘာကြောင့်အိမ်ထောင်ရေးအဆင်မပြေရတာလဲ**

ရှုရီအသ်နဲ့ဆန့်ကျင်တဲ့အိမ်ထောင်ရေးဆိုရင်တော့ စိတ်မချမ်းမြေ့ဖွယ်ရာတွေနဲ့ ကြုံရမှာသေချာပါတယ်။ ရွှေလက်တွဲမြဲမြဲနဲ့ အချစ်တွေရံတဲ့ အိမ်ထောင်ရေးကိုလိုချင်ရင်တော့ ရှုရီအသ်ကို ဦးထိပ်ပန်ဆင်ရလိမ့်မယ်။ ရှုရီအသ်အတိုင်းနေထိုင်ရင် အလ္လာဟ်အရှင်မြတ်ကလည်း ဘယ်လို စိတ်ထဲမှာ စည်းလုံးမှုတွေပေးလဲ၊ နှလုံးသားချင်းနီးကပ်မှုတွေ ပေးလဲဆိုတာ သဘောပေါက်သွားပါလိမ့်မယ်။

**အချစ်နိဒါန်းစကားတွေ မေ့မပစ်နဲ့**

ဒ့ါကြောင့် ခင်ပွန်းသည်ဟာ နေကာပြုစအချိန်မှာ ပြခဲ့တဲ့မေတ္တာတွေ၊ ပြောခဲ့တဲ့ အချစ်စကားတွေကို ဘဝအတွက် စံပြုထားလိုက်ပါ။ အမြဲဒီမေတ္တာစကားတွေကိုလည်း ပြန်ပြောနေပါ။ အမြဲပြောနေမှလည်း အမှတ်တရတွေဟာ သစ်လွင်နေမှာ။

**ခင်ပွန်းသည်များအိမ်ကိုဝင် အပြုံးပန်းကိုဆင်**

ရှုရီအသ်ကပြောတယ်။ ခင်ပွန်းဟာ အိမ်ကိုဝင်ရင် အပြုံးပန်းဆင်မြန်းပြီး စလာမ်နဲ့ဝင်ရမယ်။ ဒါမှအိမ်မှာ ဗရ်ကသ်မင်္ဂလာရှိမှာ။ ဇနီးကို

ပေးတဲ့ စလာမ်ဟာလည်း အချစ်နှောနေတဲ့စလာမ်ဖြစ်ရမယ်။ ဇနီးက လည်း ဘယ်လိုအလုပ်ထဲမှာပဲ နစ်မွန်းနေပါစေ ခင်ပွန်းရဲ့ စလာမ်ကို အရေးတယူနဲ့ ပြန်ပေးပါ။ ခင်ပွန်းဟာ (၁၀)မိနစ် (၁၅)မိနစ်လောက် လေး အချိန်ထုတ်ပြီးဇနီးကိုမေးပါ။ "ဒီနေ့အခြေအနေဘယ်လိုလဲ၊ ဘာ တွေကြုံခဲ့ရလဲ၊ ဘာတွေလုပ်အပ်လဲ" စသည်ဖြင့်မေးပါ။အလ္လာဟ်အရှင် မြတ်က ဇနီးသည်တွေထဲမှာ အမိန့်နာခံခြင်းဆိုတဲ့ သဘောသဘာဝ ထည့်ပေးထားတယ်။ လက်အောက်ငယ်သားတစ်ဦးဖြစ်တဲ့ အလျောက် အခြေအနေတွေမေးခံရတာမျိုးကို ကြိုက်နှစ်သက်တယ်။ ခင်ပွန်းသည် ကမှ မမေးရင် သူဘယ်သူ့ရှေ့သွားပြီးရင်ဖွင့်ရမလဲ။

သူ့ကိုခင်ပွန်းကမေးမြန်းရင် သူဟာအရမ်းကို ပြောတယ်။ "ငါ့ခင် ပွန်းက ငါ့ဘဝနဲ့ပတ်သက်ပြီး သောကပိုက်နေပါလား" လို့ခံစား ပီတိ ဖြစ်မိတယ်။ ဇနီးသည်က တနေ့တာဖြစ်စဉ်တွေပြောပြနေချိန်မှာလည်း ခင်ပွန်းက တချို့မေးခွန်းလေးတွေကြားဖြတ်မေးပေးပါ။ ဒါမှလည်း ငါ့ ခင်ပွန်းငါ့အလုပ်တွေမှာ စိတ်ဝင်စားပါလား၊နားထောင်ပြီး ထုတ်ပစ်မှာ မဟုတ်ဘူး။

အချိန်နည်းနည်းပဲထုတ်ရပေမယ့် ဇနီးသည်ကတော့ အရမ်းကို ပီ တိဖြစ်သွားပါလိမ့်မယ်။

**လက်ဆောင်ပန်း ကမ်းပေးပါ**

တစ်ခါတရံ လက်ဆောင်ပန်းလေးတွေလည်း ကမ်းပေးပါ။ ရှုရီ အသ်က အမျိုးသမီးတွေကို ပန်းနဲ့ ခိုင်းနှိုင်းထားပါတယ်။ တစ်ရက် ဟာဇရသ် အလီ ﷺ သခင်အိမ်မှာရှိနေခိုက် ဖွာသွေ့မဟ် ﷺ သခင်မ

ကြီးကို ကျီစယ်ဖို့ စဉ်းစားတယ်။ ကဗျာတစ်ပိုဒ် ဆိုလိုက်တယ်။

إن النساء شياطين خُلِقْنَ لنا

အလိုသဘောက "မုချအမျိုးသမီးတွေဆိုတာ အမျိုးသားတွေအတွက် မိစ္ဆာအဖြစ်နဲ့ အရှင်မြတ်ကဖန်ဆင်းပေးထားတယ်"။

သခင်မကြီးက စိတ်မဆိုးဘဲ ပြန်လည်အဖြေပေးလိုက်တယ်။

إن النساء رياحين خلقن لكم وكلكم يشتهي شم الرياحين

" မုချအမျိုးသမီးတွေဆိုတာ အသင်တို့ အတွက်ပန်းအဖြစ်နဲ့ ဖန်ဆင်းခံရတာပါ။ အသင်တို့အနက်တစ်ဦးတိုင်းဟာ ဒီပန်းလေးတွေကို အနမ်းပေးလိုကြပါတယ်။"

ဟဇရသ်အလီ ﷺ သခင်ကြီးက ပြုံးပြီးတော့"အသင်မရဲ့ အဖြေဟာ ငါ့အဖြေထက် သာပိုကောင်းပါတယ်။"လို့ မိန့်လိုက်ပါတယ်။

အလ္လာဟ်အရှင်မြတ်က အမျိုးသမီးတွေကို ပန်းလိုဖန်းဆင်ထားတယ်ဆိုတော့ သူတို့အတွက် ပန်းကမ်းခြင်းဟာ အချစ်သက်သေတစ်ခုဖြစ်သွားပါမယ်။ နောက်တစ်ခုမှတ်ထားလိုက်ပါ။ အမျိုးသားပေးတဲ့လက်ဆောင်ဟာ ဈေးကွက်မှာဘယ်လောက်ပဲဈေးကြီးပါစေ၊ ဘယ်လောက်ပဲ အညတရဖြစ်ပါစေ ဇနီးသည်ထံမှာတော့ တန်ဖိုးအကြီးဆုံးလို့မှတ်ချက်ပေးခံရမှာပါ။ ဒါ့ကြောင့် ဇနီးအတွက် လက်ဆောင် သေးသေးလေးပင်ဖြစ်ပါစေ ယူခဲ့ပေးပါ။ တန်ဖိုးနည်းတာတွေများများပေးတော့ တန်ဖိုးကြီးတာယူလာတဲ့အခါ တန်ဖိုးထားတတ်သွားပါလိမ့်မယ်။





**ကမ္ဘာ့အလှဆုံး**

ဇနီးသည်ကို အချစ်မျက်စိနဲ့ကြည့်တတ်ပါစေ။ ကြည့်ပြီးရင်လည်း အရမ်းကိုလှပတယ်လို့ စာလုံးလှတွေနဲ့ မှတ်ချက်ပေးပါ။ ဇနီးတွေဟာ ခင်ပွန်းအတွက် ဆင်ယဉ်ချယ်သပြီး၊ရေမိုးချိုးပြီးစောင့်မျှော်နေတတ်ပါတယ်။ မိမိရဲ့ ဒီလိုဆောင်ရွက်ထားမှုပေါ် ခင်ပွန်းရဲ့ ချီးကျူးသံတွေကိုလည်း ကြားလိုကြတယ်။ ဒီလို ချီးကျူးပေးတာဟာ စွန္နသ်လည်းဖြစ်ပါတယ်။ ကိုယ်တော်မြတ် ﷺ ဘဝသက်တမ်းမှာ ဒီလိုချီးကျူးသံတွေ၊ ဇနီးသည်ကို အမွှမ်းတင်တဲ့ စကားလေးတွေအများအပြားတွေ့ရပါတယ်။ ဒီလိုစကားတွေဟာ ဇနီးမောင်နှံနှစ်ဦးရဲ့ သံယောစဉ်ကြိုးတွေကို ခိုင်မြဲစေပါတယ်။

**ဇနီးသည်စကား အလေးထား**

ဇနီးသည်က စကားတစ်ခုခုပြောလာရင်လည်း ခင်ပွန်းက အာရုံအပြည့်နဲ့ နားထောင်ပေးရမယ်။ အမျိုးသားတွေဘက်က အားနည်းချက်တစ်ခုကတော့ ဇနီးစကားပြောချိန် ၅%ရာခိုင်နှုန်းလောက် အာရုံပြုပေးလိုက်တာကို များလှပြီထင်ကြတယ်။ တကယ်တော့ ဇနီးတို့မည်သည်မှာ ခင်ပွန်းရဲ့ သူတို့ပေါ်ထားရှိတဲ့ အာရုံတွေ၊မေတ္တာတွေကို အရမ်းတန်ဖိုးထားတတ်ကြတယ်။

နောက်တစ်ခုက ဇနီးသည်စကားပြောနေရင်လည်း ခင်ပွန်းက မိမိလက်ကို သူ့လက်ပေါ်တင်ပေးထားပါ။ လက်ချင်း ထိကပ်နေခြင်းကြောင့်အမျိုးသမီးရဲ့စိတ်ဓါတ်ခွန်အားတွေမြင့်တက်လာပြီး၊ အထီးကျန်ဆန်မှုတွေ ပပျောက်သွားပါတယ်။




**နေ့ရာတိုင်းမှာ ဖုန်းဆက်ဖို့မမေ့နဲ့**

လူကြီးမင်းဟာ အလုပ်မှာ၊ ရုံးမှာရောက်ရှိနေချိန် အချိန်အနည်းငယ်ထုတ်ပြီး ဇနီးကို အကျိုးအကြောင်း၊အဆိုးအကောင်း ဖုန်းဆက်မေးပါ။ မှာလိုတာလေးတွေ ဝယ်ခဲ့ပေးမယ်လို့ပြောပါ။ ဒီလိုအလုပ်နားချိန်၊ အားချိန်တွေမှာ မိနစ်အနည်းငယ် ဖုန်းဆက်လိုက်ခြင်းဟာ ဇနီးရဲ့ ရင်မှာ ခင်ပွန်းရဲ့ အချစ်မှတ်တိုင်စိုက်ထူလိုက်သလိုပါပဲ။

**ချစ်တယ်လို့ ပြောလိုက်ပါ**

ခင်ပွန်းသည်ဟာ ဇနီးကို နေ့စဉ်ချစ်တယ်လို့ပြောပါ။ တချို့က ကိုယ့်ဇနီးဖြစ်နေပြီပဲ မချစ်လို့ရမလား၊ အထူးချစ်တယ်လို့ ပြောနေဖို့ ဘာလိုလဲထင်ကြတယ်။ ဒါကမှားယွင်းတဲ့အယူအဆပါ။ ဟဒီးဆ်တော်မှာ လာရှိတယ်။ တစ်ရက် နှစ်ဘဝသခင် ကျေးဇူးတော်ရှင် မုဟမ္မဒ် ﷺ က အာအေရှာသခင်မကို "အို - အာအေရှာ အသင်မကို ငါဟာ မခမ်းနဲ့ စွန်ပလွံသီးရောစားခြင်းထက် ပိုမိုချစ်ခင်နှစ်သက်တယ်"လို့ မိန့်လိုက်တယ်။ ထိုအခါ မိခင်မွန်ကြီးကချက်ချင်း အဖြေပေးလိုက်တယ် "အို- အလ္လာဟ်ရဲ့ အချစ်တော် ကျွန်မဟာ ကိုယ်တော်သခင့်ကို မခမ်းနဲ့ ပျားရည်ရောစပ်စားသုံးခြင်းထက် ပိုမိုစုံမက် နှစ်သက်ပါတယ်။" အခုလို ကိုယ်တော်သခင်က ကြင်ယာတော်တွေရဲ့ရှေ့မှာ အချစ်တွေ ထုတ်ဖော်ပြသနေခြင်းဟာ အွမ္မသ်ကို သင်ကြားပေးနေတာဖြစ်ပါတယ်။

လူကြီးမင်းအပြင်မှာ ဘယ်လောက်ပဲ သူတော်စင်ဖြစ်နေပါစေ၊ အေဗာဒသ်တွေအရမ်းလုပ်သူဖြစ်နေပါစေ အချိန်တန်လို့အိမ်ပြန်လာရင်တော့ ဇနီးသည်ကို ချစ်တယ်လို့ ခနခန ထုတ်ပြောပေးပါ။ တိတ်ဆိတ်စွာနေလိုက်တာ၊ မျက်မှောင်ကြုတ်ပြီး သုန်မှုန်စွာနေခြင်းတွေဟာ




မကောင်းပါဘူး။ မင်းမချစ်လို့တခြားဘယ်သူ့သွားချစ်ရမှာလဲဆိုပြီး စိတ်မရှည်လက်မရှည် ပြန်မဖြေလိုက်ပါနဲ့။ အချစ်ဆိုတာ ထုတ်ဖော် ပြသခြင်းကို လိုလားပါတယ်။ ကတိုးနံ့ဟာ ဖုံးကွယ်ထားလို့မရသလိုဘဲ အချစ်ရနံ့ဟာလည်း ဖုံးထားလို့ မရပါဘူး။ ဇနီးကလည်း ရင်ထဲက အချစ်တွေကို ဖုံးထားလို့မရသလို ခင်ပွန်းကလည်း အချစ်တွေရင်ထဲမှာပဲ သိမ်းထားလို့မဖြစ်နိုင်ပါဘူး။

**ခရီးမှာ ဖုန်းဖွင့်ထားပါ**

ခင်ပွန်းသည်ဟာ ခရီးထွက်မယ်ဆိုရင်လည်း အခြားမြို့မှာ ဖုန်းဖွင့်ထားဖို့ မမေ့ပါနဲ့။ ဖုန်းလည်းဖွင့်ထားပါ။ ဇနီးကဖုန်းဆက်လာရင်လည်း ဖုန်းကိုင်ပါ။ အမျိုးသားတွေဟာ တခြားမြို့ကိုရောက်ရင် လွတ်လပ်သွားတယ်။ ငါ့လက်ကလွတ် သတင်းကျွတ်ဆိုတဲ့အချိုးမျိုးပေါ့။ စွန္နသ်တော်ကတော့ ခရီးသွားမီ၊ ခရီးကပြန်လာချိန်တွေမှာ ခင်ပွန်းဟာ ဇနီးနဲ့ အထူးတွေ့ဆုံသင့်ပါတယ်။ ဟဇရသ် ရှိုင်ခွလ်ဟဒီးဆ် မော်လာနာ ဇကရိယာ (ရ) သခင်ကြီးက ဒီကိစ္စဟာအရမ်းကို အရေးကြီးတယ်လို့ ရေးသားထားပါတယ်။

ခင်ပွန်းဟာ ဇနီးအတွက် လှပတဲ့အဝတ်အစားတွေ၊ မွှေးကြိုင်တဲ့ ရနံ့တွေ ဆွတ်ဖြန်းထားရမယ်။ ဆွဟာဗာကြီးတွေဆီက စံနမူနာတွေယူ တတ်ရမယ်။ ဆွဟာဗီတစ်ပါးဟာ အမြဲသင်းပျံ့မွှေးကြိုင်တဲ့ နံ့သာတွေ သုတ်လိမ်းတော့ လူတွေကအကြောင်းကိုမေးလာတယ်။ ဆွဟာဗာကြီးက အဖြေပေးလိုက်တယ်။ "ကျွန်တော့်ဇနီးသည်အတွက်ဆွတ်တာပါ။ ဒါမှသူမဟာ ကျွန်တော့်ကိုပဲ စိတ်စွဲလန်းနေမှာ။"

ရှုရီအသ်က လမ်းညွှန်ချက်တစ်ခုက ခင်ပွန်းသည်ဟာ ဇနီးသည်နဲ့ ချစ်တင်းနှောလိုတယ်ဆိုရင် ဦးစွာအရိပ်အကဲလေးတွေပြပေးပါ။ မိမိတို့ဇနီးမောင်နှံကြား ထားရှိတဲ့အရိပ်အကဲလေးတွေနဲ့ ဖိတ်ခေါ်ပါ။ ဦးစွာ နားလည်မှုယူသင့်ပါတယ်။ တိရစ္ဆာန်တွေလို နိဒါန်းမဲ့ ကာမဂုဏ်အာရုံတွေဖြေဖျောက်တာမျိုး မပြုလုပ်သင့်ပါဘူး။ ချစ်တင်းမနှောမီ အချစ်စကားတွေနဲ့ နိဒါန်းပျိုးပါ။ဒါမှတည်ငြိမ်အေးချမ်းမှုကို ခံစားရမှာ။

**အချင်းချင်း ကျီစယ်နေပါ**

ခင်ပွန်းဟာ အိမ်ထဲမှာလည်း ဇနီးသည်ကို မကြာခန ကျီစယ်နေပါ။ ခပ်တည်တည်နေတာမျိုး၊ အမြဲမျက်နှာထားနဲ့ လငပုတ်ဖမ်းနေတာမျိုးနဲ့ မနေသင့်ပါဘူး။ ပျော်ပျော်ရွှင်ရွှင်နေပေးပါ။ ရှုရီအသ်ဘောင်အတွင်းကနေ ရယ်မောပျော်ရွှင်ဖွယ်ကိစ္စလေးတွေ၊ စကားရပ်တွေကိုလည်း ပြောပြနေပါ။ ဒီလိုကိစ္စလေးတွေဟာ ဘဝအမောတွေပြေစေပါတယ်။

**အများရှေ့မှာ ချစ်ပြပါ**

အများရှေ့မှာလည်း ရှုရီအသ်ဘောင်အတွင်းကနေ မိမိဇနီးကို ချစ်တဲ့ပုံစံမျိုးနဲ့ အရေးတယူဆက်ဆံပါ။ ခေါ်ဝေါ်တဲ့ ပုံစံတွေထဲမှာပဲ အချစ်တွေယိုဖိတ်နေပါစေ။ (ချစ်ဇနီး၊ အိုမေမေပြောတဲ့ အမောပြေ) စသည်ဖြင့် ။ ဇနီးသည်ကို အချစ်နှောနေတဲ့ပုံစံနဲ့ ဘယ်လောက်ဆက်ဆံမလဲ လူကြီးမင်းချစ်တာထက် အဆမတန်ဇနီးကလည်း ချစ်လာလိမ့်မယ်။ တချို့လူတွေက လူတွေရှေ့မှာ ဇနီးသည်ကိုငေါက်ငန်းပြပြီး မိန်းမကို နိုင်ကြောင်းကြေညာလိုကြတယ်။ ဒါပေမဲ့ ဇနီးသည်ရဲ့ နှလုံးသား

မှာ ဘယ်လောက်တောင်ထိခိုက်ဒဏ်ရာတွေရသွားလဲဆိုတာ မစဉ်းစားမိကြဘူး။ ဇနီးသည်တွေဆိုလည်း လူတွေပဲမဟုတ်လား။ ခြေထောက်အောက်က ဖိနပ်မှမဟုတ်တာ။ စကားပြောတဲ့အခါ ချစ်ခင်မှုကို ဖော်ပြပေးတဲ့ စကားလုံးလေးတွေနဲ့ ပြောခြင်းဟာလည်း ရှရီအသ်ရဲ့ လမ်းညွှန်ချက်တွေထဲမှာပါပါတယ်။ လူအများနဲ့နေချိန်မှာလည်း ကိုယ့်ဇနီးဘက်ကိုလည်း မကြာခဏဆိုသလို အာရုံစိုက်ပေးပါ။ ကျွန်တော်တို့ဟာ ဆွေမျိုးသားချင်းတွေနဲ့ တွေ့ဆုံရတဲ့အခမ်းအနားမျိုးတွေမှာ သူတို့ကို အရမ်းမျက်နှာသာပေးလိုက်မိပြီး ဇနီးကို ဥပေက္ခာပြုလိုက်တာမျိုးတွေလည်း ရှိပါတယ်။ ဒါဟာဇနီးစိတ်ကို ရိုက်ချိုးလိုက်သလိုပါပဲ။ တခြားသူထက်ဦးစားပေးခံရတာမျိုးကို ဇနီးတွေမခံစားနိုင်လို့ပါပဲ။

တစ်ချို့ခင်ပွန်းတွေဟာ သားသမီးတွေရဲ့ ရှေ့မှာ ဇနီးကို ဝေါက်ငန်းပြီး အိမ်ကိုတော့ သိမ်းပိုက်နိုင်လိုက်ပြီလို့ထင်နေကြတယ်။ ဒါဟာ စာပေမတတ်ခြင်း၊ တုံးအခြင်းပါပဲ။ လူကြီးမင်းက ကလေးတွေရှေ့မှာ ဇနီးကိုသိက္ခာချရင် မနက်ဖန်ဒီကလေးတွေက ကိုယ့်မိခင်ကို ဘယ်လိုလုပ်ပြီး လေးစားကြမလဲ။ မိခင်ဟာ တန်ဖိုးမဲ့တဲ့သူတစ်ယောက်လို့ မြင်လာကြမယ်။ ရင်သွေးငယ်တွေရဲ့ ရှေ့မှာ ဇနီးရဲ့တန်ဖိုးကိုမြှင့်တင်ပေးခြင်းဟာ ဖခင်ရဲ့တာဝန်ဖြစ်ပါတယ်။

**အလွမ်းခတဲ့ ခနု**

ရုံးခန်းမှာရှိနေစဉ်၊အလုပ်မှာရှိနေစဉ် အလွမ်းတွေရင်ခွင်မှာ ခ’နေတယ်ဆိုပြီးဇနီးကိုပြောပေးပါ။ ဒီစကားမျိုးလေးတွေ ကြားရရင်ဇနီးလည်း ဝမ်းသာပီတိဖြစ်မှာ သေချာပါတယ်။

**မေတ္တာအစ မျက်စိက**

ဇနီးနဲ့စကားပြောတဲ့အချိန် မျက်လွှာကိုလည်း သူ့ပေါ်တင်ထားပါ ဇနီးဆိုတာ အချစ်တွေကိုသယ်ဆောင်လာမယ့် ခင်ပွန်းရဲ့အကြည့်တွေကို အရမ်းမျှော်လင့်ပါတယ်။ ဒါ့ကြောင်း ဇနီးသည်နဲ့စကားပြောချိန် အကြည့်ချင်းဆုံ မျက်လုံးချင်းစကားပြောဖို့လည်းကြိုးစားပါ။ ဒါတွေဟာ အချစ်တွေကို တိုးပွားစေပါတယ်။

**နှုတ်ဆက်အနမ်း**

ပြင်ပတစ်နေရာကို သွားတော့မယ်ဆိုလည်း မိမိဇနီးသည်ကို အနမ်းတွေနဲ့ နှုတ်ဆက်ခဲ့ပါ။ ဟဇရသ် အာအေရှာသခင်မကြီး အမိန့်ရှိတယ်။ "ကိုယ်တော်သခင် ﷺ ဟာ တစ်ရက်နမားဇ်ဖတ်ဖို့ သွားနေစဉ် ကျွန်မကို နမ်းရှုံ့တော်မူခဲ့တယ်။" ဒီကနေဘာသိရလည်းဆိုတော့ ချစ်နဗီ ﷺ ရဲ့ ဘဝသက်တမ်းဟာ ကျွန်တော်တို့အတွက် လမ်းပြမီးအိမ်ဖြစ်ပါတယ်။

**ပျားရည်ဆမ်းတဲ့ အွမ္မရဟ်ခရီးလမ်း**

တစ်ခါတရံ ဇနီးသည်လည်း အလုပ်များ၊ ခင်ပွန်းလည်း မအား၊ သားသမီးတွေလည်း တာဝန်တွေကိုယ်စီနဲ့မို့ ဆုံစည်းဖို့ခက်နေရင်လည်း ဇနီးမောင်နှံနှစ်ဦးဟာ ရက်တိုအွမ္မရဟ်ခရီးထွက်ဖို့ စီစဉ်သင့်ပါတယ်။ အွမ္မရဟ်ပြုလိုက်ခြင်းကြောင့် အရှင်မြတ်နဲ့နီးကပ်မှုလည်း ပိုမိုရရှိလာမယ်။ ဇနီးမောင်နှံနှစ်ဦးလည်း အတူသွား၊အတူလာဖို့ အချိန်တွေရရှိလာပါလိမ့်မယ်။ နှစ်ဦးတည်းကုတင်တစ်လုံးပေါ်မှာ အိပ်ဖို့လည်း ကြိုးစားပါ။ ကိုယ်တော်မြတ် ﷺ ဟာ အိမ်ယာတစ်ခုတည်းမှာပဲ မိမိကြင်

ယာတော်နဲ့အနားယူတော်မူတယ်ဆိုတဲ့အကြောင်း ဟဒီးဆ်တော်တော်တွေမှာလာရှိပါတယ်။ ရှောင်ကွင်းမရတဲ့အခက်အခဲ တစ်စုံတရာမရှိဘဲ ဇနီးမောင်နှံဟာ အတူအိပ်ခြင်းကို မစွန့်လွှတ်သင့်ပါဘူး။ အသက်ရသွားလို့ ကလေးတွေကို ထိန်းကျောင်းဖို့ခွဲအိပ်တယ်ဆိုရင်လည်း တစ်ချိန်ချိန်တော့ အတူနေထိုင်ဖို့ သတ်မှတ်ထားသင့်ပါတယ်။ ကလေးငယ်တွေနဲ့ယှဉ်လာရင်လည်း ဇနီးကိုပဲ ဦးစားပေးချစ်ပြီးအချစ်ပြပါ။

**ရှေ့လက်တွဲ မြဲပါစေ**

ဇနီးဟာ ကျန်းမာရေးချို့တဲ့နေချိန်မှာ တွဲပေးဖို့လိုအပ်ရင်လည်း ခင်ပွန်းက လက်တွဲပေးဖို့ မဆိုင်းပါနဲ့။ စီရသ်မှာ အကြောင်းအရာတစ်ခုလာရှိပါတယ်။ ကျွန်ုပ်တို့မိခင်မွန် ဟာဇရသ် စွဖိယဟ်သခင်မဟာ ကုလားအုပ်ပေါ်တက်ချိန် ခြေတက်ဖို့အရာတစ်ခု လိုအပ်နေချိန်မှာ ကိုယ်တော်သခင် ﷺ က မိမိရဲ့ ပေါင်တော်ကို ကမ်းပေးပြီး "အို စွဖိယဟ် ဒီပေါ်မှာခြေတင်ပြီး တက်လိုက်ပါ"လို့မိန့်တယ်။ တစ်လောကလုံးရဲ့ ရှင်ဘုရင် ၊နဗီအပေါင်းရဲ့ သင်းကျစ်သရဖူ၊ ကောင်းကင်တမန်တော်အပေါင်းရဲ့ ခေါင်းဆောင်က မိမိရဲ့ ပေါင်တော်ကို ဇနီးသည်တစ်ပါးအတွက်ခင်းပေးခြင်းဟာ ကျွန်ုပ်တို့အတွက် သင်ခန်းစာယူစရာဖြစ်ပါတယ်။ လိုအပ်နေချိန်မှာ တွဲလက်ကမ်းပေးတာ၊ ဖေးမပေးတာဟာ ကိုယ်တော်မြတ် ﷺရဲ့ မင်္ဂလာရှိလှတဲ့ စွန္နသ်တော်တစ်ရပ်ဖြစ်ပါတယ်။

**အေးအတူ ပူအမျှ**

ဇနီးသည်ခေါင်းကိုက်နေချိန်၊ အလုပ်ကြောင့်မောပန်းနေချိန်တွေမှာလည်း ခင်ပွန်းဟာ တတ်နိုင်တဲ့ဘက်ကနေ ဖေးမကူညီပေးလိုက်ပါ။




ကိုယ်တော်မြတ် ﷺဟာ အိမ်မှုကိစ္စတွေမှာလည်း ဝိုင်းဝန်းကူညီပေးခဲ့တယ်။ ဂျုံလည်းနယ်ပေးတယ်။ ဆိတ်နို့လည်း ညှစ်ပေးတယ်။ အဝတ်အစားတွေ၊ ဖိနပ်တော်တွေကိုလည်း ကိုယ်တိုင်ကိုယ်ကျ ပြုပြင်မှုတွေလုပ်ခဲ့ပါတယ်။ အိမ်မှုကိစ္စတွေမှာ ပါဝင်ဆောင်ရွက်ပေးခြင်းဟာလည်း အိမ်သာယာဖို့အတွက် အခြေခံအုတ်မြစ်တစ်ခုဖြစ်ပါတယ်။

**အဝတ်အစားချွတ်တာ စနစ်ကျပါ**

အိမ်ပြန်လာချိန် အဝတ်အစားတွေချွတ်တော့မယ်ဆိုရင်လည်း စနစ်တကျ သူ့နေရာနဲ့သူ အဝတ်တွေကိုထားပါ။ အင်္ကျီတစ်နေရာ၊ ပုဆိုးတနေရာ၊ ဘောင်းဘီတစ်နေရာလုံးထွေးပြီးမချွတ်ပါနဲ့။ ဒါဟာ တခြားလူအတွက် စိတ်အနှောက်အယှက်ဖြစ်ဖွယ်ရာတွေပါ။ အင်္ကျီချွတ်စဉ် ပြောင်းပြန်ဖြစ်နေရင်လည်း အတည့်ဘက်ကို ပြန်လှည့်ပေးခဲ့ပါ။

**မိမိအစီးအနင်းကို သန့်ပြန့်စွာထားပါ**

အပြင်မသွားခင်မိမိအစီးအနင်းကို သန့်ပြန့်စွာထားပါ။ အစီးအနင်းသန့်ရှင်းရေးလုပ်တာဟာ ဇနီးသည်ရဲ့တာဝန်မဟုတ်ပါဘူး။ ခင်ပွန်းရဲ့ တာဝန်ပါ။ ကားပေါ်မှာ အဲယားကွန်းဖွင့်ပိုင်ခွင့်ကိုလည်း ဇနီးကိုပဲ ပေးထားပါ။ ဘာကြောင့်လဲဆိုတော့ ဇနီးသည်တွေဟာ ဘုရ်ကာကို ဝတ်ဆင်ထားရတယ်။ အမျိုးသားတွေထက်ပိုပြီး အပူဒဏ်ခံရတယ်။ ကားထဲမှာအလုံပိတ်ထားရင် ဘုရ်ကာဝတ်အမျိုးသမီးတွေအတွက် ပိုပြီး ဒုက္ခရောက်နိုင်တယ်။ ဒါကြောင့် သူတို့ကိုငဲ့ညှာထောက်ထားပေးပါ။

**စွန့်ပစ် ပြင်ဆင်**

အိမ်မှာအမှိုက်တွေများနေရင်လည်း စွန့်ပစ်ဖို့တာဝန်ဟာ ခင်ပွန်း

ရဲ့ တာဝန်ပါ။ လျှပ်စီးမီးသီးတွေ၊ မီးကြိုးတွေပျက်စီးနေတာကို ပြုပြင်ဖို့ တာဝန်ဟာလည်း အမျိုးသားပေါ်မှာရှိနေပါတယ်။

**သယ်ဆောင်ပေးပါ**

ဈေးဝယ်ထွက်ချိန် ဝယ်လာတဲ့ပစ္စည်းထုတ်တွေကို ဆွဲပြီးအိမ်ပို့ပေးခြင်းဟာလည်း ခင်ပွန်းရဲ့ တာဝန်ပါပဲ။ ဆွဟာဗာအများစုဟာ မိမိတို့ရဲ့ ပစ္စည်းတွေကို ခေါင်းပေါ်မှာ ရွက်ပြီးကိုယ်တိုင်သယ်ဆောင်လာလေ့ရှိကြပါတယ်။ ပစ္စည်းတွေသယ်ဆောင်ရတာကို သိက္ခာကျစေမယ့် လုပ်ရပ်တွေလို့ မထင်လိုက်ပါနဲ့။

ခရီးသွားစဉ် အိပ်တွေသယ်ဆောင်ပြီး ကားထဲထည့်ပေးဖို့ဆိုတာလည်းခင်ပွန်းရဲ့ တာဝန်ပါပဲ။

**သာယာဖြောင့်တန်း ခရီးလမ်း**

ကားမောင်းနေစဉ်မှာလည်း ဘရိတ်ကို ဆောင့်ပြီးမအုပ်မိပါစေနဲ့။ ကားပေါ်မှာ ပါလာတဲ့ကလေးတွေအတွက်လည်း အန္တရာယ်ဖြစ်စေပါတယ်။ (ခရီးတစ်ခုမှာ ကိုယ်တော်မြတ်ﷺ က ကုလားအုတ်ကို မြူးထူးစွာမောင်းနှင်နေတဲ့ ဟဇရသ် အန်ဂျရှားဟ်ကို "အို အန်ဂျရှားဟ် နှလုံးသားဖန်သားပြင်တွေ ကွဲအက်အောင်မလုပ်ပါနဲ့."လို့ မိန့်ခဲ့တယ်။)

ခရီးသွားတော့မယ်ဆိုလည်း လမ်းခရီးမြေပုံကို စနစ်တကျလေ့လာထားပါ။ ဒါမှ မေးဖို့ရပ်ဖို့မလိုဘဲ ခရီးလမ်းဖြောင့်ဖြူးသွားမှာ။

ခရီးချိန်ထက် ဇနီးသည်ကို (၁၅)မိနစ်လောက်ကြိုပြီးပြောထားပါ။ (၈း၀၀)နာရီထွက်ရမယ်ဆို (၇း၄၅)လောက်ကို အသင့်ဖြစ်နေဖို့ကြိုပြောထားပါ။ ဇနီးသည်တွေပေါ်မှာ တာဝန်တွေအများကြီးရှိပါတယ်။




လမ်းစားဖို့ပြင်ဆင်ရတာ၊ကလေးတွေကို အဆင်သင့်လုပ်ပေးရတာ၊ကိုယ့်ကိုယ်ကို ဆင်ယင်ရတာ စသည်ဖြင့်။ ဒီလိုတာဝန်များစွာ ရစ်သိုင်းနေတဲ့ ဇနီးဟာ နောက်ကျသွားရင်လည်း ဒေါသမပြလိုက်ပါနဲ့။ "ငါက (၈း၀၀) နာရီထွက်ဖို့ မင်းကိုပြောထားတယ်။ ဘာလို့ ငါးမိနစ်နောက်ကျ ရတာလဲ" ဆိုပြီး အချိန်မှန်ကြီး လုပ်မပြပါနဲ့။ လူသားတွေပဲမဟုတ်လား၊ အတိမ်းအစောင်းတော့ ရှိမှာပေါ့။

သတ်မှတ်ချိန်ထက် စောပြီး ဇနီးက အသင့်ဖြစ်သွားရင်လည်း ကျေးဇူးတင်စကားပြောဖို့ မမေ့နဲ့အုံး။

**သာတယ် နာတယ် မရှိပါစေနဲ့**

တစ်ခါတရံ ဇနီးသည်အတွက် ကိုယ်တိုင်စားသောက်ဖွယ်ရာလေးတွေလည်းစီစဉ်ပေးပါ။ ဇနီးသည်က လက်ဖက်ရည်ကြိုက်တတ်ရင် လည်းခင်ပွန်းက ရံဖန်ရံခါ လက်ဖက်ရည် ဖျော်တိုက်ပေးပါ။ ဇနီးသည်ကပဲ လူကြီးမင်းအတွက် တစ်သက်လုံးစားသောက်ဖွယ်ရာ စီစဉ်ပေးနေရမယ်လို့ ဘယ်မှာမှရေးမထားပါဘူး။ အချင်းချင်းနားလည်မှုတစ်ခု တည်ဆောက်ထားပါ။ သာတယ် နာတယ်မတွက်မိပါစေနဲ့။

**နောက်ကျမယ်ဆို အကြောင်းကြားပါ**

ရုံးမှာ၊ အလုပ်မှာ ကိစ္စတစ်ခုခုကြောင့် နောက်ကျတော့မယ်ဆိုလည်း ဇနီးကို ကြိုတင်အကြောင်းကြားပါ။ ဒါမှ စောင့်မျှော်တဲ့ ဒုက္ခမခံရတော့မှာ။ "الانتظار أشد من الموت" " စောင့်မျှော်နေရတဲ့ ဒုက္ခသေဘေးထက်ပိုဆိုးတယ်" ဆိုတဲ့ ဆိုရိုးရှိတယ်မဟုတ်လား။ တစ်ခါတလေကျတော့ ဇနီးဟာခင်ပွန်းပြန်အလာစောင့်မျှော်နေရင်းနဲ့ ၂ နာရီ

လောက်ကြာသွားတတ်တယ်။ သူ့ခများခင်ပွန်းနဲ့အတူ ကြယ်ဆုံလဆုံနဲ့ ထမင်းလက်ဆုံစားဖို့ စောင့်နေရှာတယ်။ လူကြီးမင်းကနောက်ကျနေရင် ဘယ်ကောင်းပါ့မလဲ။

**စိတ်ပျက်နေရင် ကြိုတင်ပြောပေးထားပါ**

လူကြီးမင်း စိတ်ထိခိုက်နေလို့ စကားမပြောချင်ဘူးဆိုရင်လည်း ဇနီးကို ကြိုတင်ပြောပေးထားပါ။ "ငါကတော့ စိတ်ထိခိုက်စရာတစ်ခုခုကြောင့် စကားပြောဖို့ စိတ်မပါသေးဘူး။ ငါ့ရဲ့ တိတ်ဆိတ်မှုကြောင့် မင်း စိတ်မကောင်းမဖြစ်နဲ့။"

**ကြိုတင်အကြောင်းကြားပါ**

အိမ်ကထွက်မယ်ဆိုလည်း ဘယ်သွားမယ်ဆိုတာအကြောင်းကြားပေးပါ။ အိမ်ကိုပြန်လာတော့မယ်ဆိုလည်း ကြိုတင်အကြောင်းကြားပါ။ ကိုယ်တော်မြတ် ﷺ ကလည်း ဆွဟာဗာတွေကို သင်ကြားပေးတယ်။ "အသင်တို့အိမ်ကိုပြန်လာတော့မယ်ဆိုရင် ဇနီးကို ကြိုတင်အကြောင်းကြားပါ။"

**အလှမမြဲလို့ အမြဲမလှတာပါ**

ဇနီးသည်ကို ဘယ်တော့မှ "မင်းမလှတော့ဘူး"လို့ ပြစ်တင်မှု မပြုပါနဲ့၊ သူလှခဲ့လို့ပါရွေးချယ်ခဲ့တာမဟုတ်လား။ ကလေးတွေရဲ့ ဒဏ်၊ အိမ်ထောင်ရေးရဲ့ဒဏ်၊ ကျန်းမာရေးဖောက်တဲ့ ဒဏ်တွေကြောင့် အနည်းငယ် အလှပျက်သွားမယ်။ ကလေးတွေမွေးလိုက်လို့ အလှလျော့သွားတာကို ပစ်မှတ်ထား မပစ်တင်မိပါစေနဲ့။ မင်္ဂလာဆောင်စဉ်က အလှမျိုး အမြဲရှိရမယ်ဆိုတာ ဖြစ်နိုင်ပါ့မလား။ လူကြီးမင်းကိုယ်တိုင်





လည်း ကိုယ့်ကိုယ်ကို မှန်ထဲပြန်ကြည့်အုံး။ မင်္ဂလာဆောင်တဲ့ နေ့ကလို့ လှသေးလားလို့။ ကိုယ့်ရုပ်ကတော့ ရင့်ထော်နေပြီး ဇနီးသည်က ကမ္ဘာ့အလှမယ်ဖြစ်ရမယ်ဆို ဘယ်ဖြစ်နိုင်ပါ့မလဲ။ အလှဆိုတာလဲ မမြဲတော့ လူတွေဟာလည်း အမြဲမလှ နိုင်ဘူးဆိုတာ မှတ်ထားပါ။

**အမှားပြင် အမှန်ဆင်ပေးပါ**

ဇနီးသည်ရဲ့ လုပ်ရပ်တစ်ခုခုကို လူကြီးမင်း မနှစ်သက်တော့ဘူးဆို ချက်ချင်း နူးညံ့သိမ်မွေ့စွာ မေတ္တာတရားရှေ့ဝယ်ထားပြီး ပြုပြင်ပေးလိုက်ပါ။ သူချက်ချင်း ပြင်လိုက်ပါလိမ့်မယ်။ အတည်ပေါက်နဲ့ ငေါက်ငန်းပြောဆိုလို့ရပါဘူး။

**အချစ်ရေးဆိုတာ အနိုင်းမဲ့တယ်နော်**

ဇနီးကို တစ်ခြားအမျိုးသမီးတစ်ယောက်နဲ့ နှိုင်းယှဉ်တာမျိုး မလုပ်မိစေနဲ့။ မင်းထက် ဘယ်အမျိုးသမီးကတော့ ပိုသာတယ်။ ပိုတော်တယ်စတဲ့ နှိုင်းယှဉ်မှုတွေဟာ ဇနီးရင်မှာ ဒေါသမီးတွေမွှေးပေးပါတယ်။ သူ့ကို ဒီလိုပြောပြီး စိတ်ဒုက္ခရောက်စေတာမျိုးဟာ နိဂုံးမကောင်းပါဘူး။

**စွန့်ပြီး ပြန်ကြည့်သတိရှိ**

အပေါ့အလေး စွန့်ပြီးတဲ့အခါမှာလည်း အိမ်သာကို သန့်ပြန့်စွာထားခဲ့ပါ။ ရေများများလောင်းခဲ့ပါ။ လူကြီးမင်းစွန့်ပစ်တဲ့မစင်တွေ၊ အနံ့တွေကြောင့် ဇနီးသည် ဒုက္ခမဖြစ်ပါစေနဲ့။ ရွံရှာသွားတာမျိုး မဖြစ်ပါစေနဲ့။

ရေမိုးချိုးတဲ့အခါလည်း ရေကိုချွေတာပါ။ အဝတ်အစားတွေကိုလည်း ပစ်မထားခဲ့ပါနဲ့။ စနစ်တကျ သန့်ပြန့်စွာထားခဲ့ပါ။

**အတူဆော့ကစား ပျော်ပျော်ပါးပါး**

အိမ်မှာ ဇနီးနဲ့ ပျော်ရွှင်စွာ ဆော့ကစားတာမျိုးဟာလည်း စွန္နသ် တစ်ခုပါပဲ။

ဥပမာ - အပြေးပြိုင်တာ၊ လက်ရှိခေတ်မှာ ကြက်တောင်ရိုက်တာ။

ဇနီးနဲ့ကစားချိန် လူကြီးမင်းလည်း အရှုံးပေးပါ။ အမြဲနိုင်နေလို့ မဖြစ်ဘူး။

**ဇနီးဆွေမျိုး အချစ်တိုး**

ဇနီးသည်ရဲ့ ဆွေမျိုးတွေ၊မိဘတွေ၊ မောင်နှမသားချင်းတွေကို လည်း ဖုန်းဆက်ပြီး နေကောင်းကျန်းမာကြောင်းတွေ မေးမြန်းခြင်းဟာ ခင်ပွန်းရဲ့ တာဝန်ပါ။ ဒီလို လုပ်ရပ်တွေကြောင့် ဇနီးရဲ့အချစ်တိုးလာပါ လိမ့်မယ်။ ကျွန်ုပ်တို့ကျေးဇူးရှင်ဆရာကြီး အမြဲမိန့်လေ့ရှိတယ်။"ခင်ပွန်း သည်ပေါ်မှာ ဇနီးရဲ့ ဆွေမျိုးသားချင်းတွေနဲ့ ကောင်းမွန်စွာ ဆက်ဆံဖို့ လည်း တာဝန်ရှိပါတယ်။ ခင်ပွန်းရဲ့ဆွေမျိုးတွေနဲ့ ကောင်းစွာ ဆက်ဆံ ဖို့လည်း ဇနီးပေါ်မှာ တာဝန်ရှိပါတယ်။" (ကိုယ်တော်မြတ် ﷺ ဟာ ကာဖိရ်ဆွေမျိုးတွေနဲ့တောင် ကောင်းစွာဆက်ဆံဖို့ တချို့မိခင်မွန်တွေ မိန့်ကြားခဲ့ပါတယ်။")

**မင်္ဂလာဆောင်နေ့ မမေ့အပ်**

ရှရီအသ်တရားတော်မြတ်က မွေးနေ့ပွဲကျင်းပတာကိုတော့ ခွင့်ပြု မထားဘူး။ ဒါပေမယ့် မင်္ဂလာဆောင်နေ့ကို သတိတရရှိနေပါ။ မင်္ဂလာ ဆောင်နေ့ရောက်လာတိုင်း ဇနီးကို လက်ဆောင်လေးတွေပေးတာဟာ ကောင်းမွန်တဲ့ လုပ်ရပ်ပါ။ ဒီလုပ်ရပ်လေးတွေဟာ ဇနီးသည်ကို ဂရု

ဂရုစိုက်ကြောင်း သက်သေထူလိုက်တာဖြစ်ပါတယ်။

**အိပ်ပျော်နေရင် မနှိုးရ**

နှစ်ခြိုက်စွာ အိပ်ပျော်နေတဲ့ ဇနီးကို အကြောင်းမဲ့သွားမနှိုးမိပါစေနဲ့။ ကိုယ်တော်မြတ်ﷺရဲ့ စွန္နသ်တော်တစ်ခုကို မိခင်မွန်အာအေရှာ သခင်မကြီးပြောပြပါတယ်။ "ကျွန်မအိပ်ပျော်နေရင် ကိုယ်တော်မြတ်ﷺ ဟာ သိမ်မွေ့စွာနဲ့ တိတ်တိတ်လေးထသွားတော်မူတယ်။ ဖိနပ်မစီးတော့ဘဲ ချေကိုဖွဖွလေးနင်းပြီး သွားလိုရာ ကြွမြန်းလေးရှိတယ်။ ကျွန်မက အကြောင်းကိုမေးလျှောက်တော့" အို-အာအေရှာ အသင်မ နှစ်ခြိုက်စွာ အိပ်ပျော်နေတဲ့အတွက် အိပ်ရေးပျက်မှာကို ငါကိုယ်တော် မလိုလားလို့ ဒီလိုပြုမူတာပါ။" ဖြေကြားတော်မူတယ်။ နှစ်ဘဝသခင်ဟာ ဇနီး နိုးသွားမှာကို စိုးရိမ်လို့ ဂရုစိုက်တယ်ဆိုရင် ကျွန်တော်တို့လည်း ဒီစွန္နသ်ပေါ် လိုက်နာသင့်ပါတယ်။

မဖြစ်မနေ အရေးပေါ် နှိုးရတော့မယ်ဆိုရင်လည်း နူးညံ့သိမ်မွေ့စွာ နွေးထွေးတဲ့မေတ္တာလက်နဲ့ နှိုးပေးပါ။"နမားဇ်ချိန်ရောက်ပြီ၊ အရေးပေါ်ဘာအလုပ်ပေါ်လာပြီး ချစ်ဇနီးရေ"။ စသည်ဖြင့်။ ငေါက်ငန်းပြီး ကြမ်းတမ်းတဲ့စကားလုံးတွေနဲ့ မနှိုးမိပါစေနဲ့။ နူးညံ့စွာ နှိုးပေးခြင်းဟာလည်း ကောင်းတဲ့ ကိုယ်ကျင့်တရားတစ်ခုပါပဲ။

**ဇနီးဆိုတာ ကျွန်မ မဟုတ်ပါ**

ဇနီးသည်တွေကို အထင်သေးတဲ့မျက်လုံးနဲ့ မကြည့်ပါနဲ့။ အောက်တန်းကျတဲ့ပုံစံနဲ့ မဆက်ဆံပါနဲ့။ သူတို့ရဲ့ မိခင်တွေက သူကောင်းအဖြစ်နဲ့ မွေးဖွားပေးထားတာပါ။ လူကြီးမင်းထံမှာ ကျွန်မ ဖြစ်မသွားပါစေနဲ့။

**ဇနီးကိုသာ ရွေးခိုင်းပါ**

ပစ္စည်းတစ်ခုဝယ်မယ်ဆိုလည်း ဇနီးကိုရွေးချယ်ခွင့်ပေးပါ။ သူကြိုက်တဲ့အရောင်၊ ပစ္စည်းကိုလည်း ဦးစားပေးလိုက်ပါ။ သူကြိုက်တာလေးဝယ်လိုက်ရရင် အရမ်းပျော်ရွှင် ပီတိဖြစ်မိပါလိမ့်မယ်။

**အိမ်သုံးစားရိတ်**

အိမ်သုံးစားရိတ်တွေဟာ ခင်ပွန်းပေါ်မှာ တာဝန်ရှိပေမယ့်လည်း ဇနီးသည်ကို လက်ဗလာမထားပါနဲ့။ သူ့ကိုလည်း အနည်းငယ်တော့ ပေးထားလိုက်ပါ။ သူ့တစ်ကိုယ်ရည်အသုံးစားရိတ်ပေးထားဖို့လည်း ရှုရီအသ်က မှာကြားထားပါတယ်။ သူ့တစ်ကိုယ်ရည်အသုံးစားရိတ်နဲ့ သာသနာ့ဘောင်အတွင်းကနေ သူကြိုက်တာသုံးပါစေ။ ဒါနဲ့ပတ်သက်ပြီး စာရင်းလည်း မစစ်ပါနဲ့။

**အသိအမှတ်ပြု ဆုချပေးပါ**

ဇနီးသည်ဟာ ကိစ္စတစ်ခုခုကို ပြောင်မြောက်စွာနဲ့ လုပ်ဆောင်ပြရင် ခင်ပွန်းသည်က ဆုလည်းချီးမြှင့်ပေးပါ။ တိရစ္ဆာန်တောင် ဆုချခံရရင် အမိန့်နာခံသေးတာပဲ။ သဘာဝလွန်ကိစ္စတွေကို ဆောင်ရွက်ပေးသေးတာပဲ။ ဆုပေးခံရရင် ထပ်မံကြိုးစားလိုစိတ်ဟာ လူ့သဘာဝမှာ တိမ်မြုတ်နေပါတယ်။ ဒါ့ကြောင့် ဇနီးသည်ရဲ့ ကြိုးပမ်းမှုကို အသိအမှတ်ပြု ဆုချပေးပါ။ ဆုကတော့ ဘာမဆိုပေးနိုင်ပါတယ်။ ဖိနပ်၊ အိတ်၊ အဝတ်အစား၊ ရေမွှေး စသည်ဖြင့် သူအကြိုက်ကို ရွေးပေးလိုက်ပါ။

**အချစ်တွေကမ်းပေးမယ့် နာမည်ခေါ်**

ဇနီးသည်ကို အချစ်တွေ ကမ်းလှမ်းပေးမယ့်အမည်တွေနဲ့ခေါ်ပါ။ ကိုယ်တော်မြတ်ﷺကလည်း ဟဇရသ် အာအေ့ရှာﷺသခင်မကြီးကို "ဟိုမိုင်ရဟ် - ပန်းနုဇကေရီလေး" ဆိုပြီး တင်စားခေါ်ဝေါ်လေ့ရှိခဲ့တယ်။

အချုပ်ပြောရရင်တော့ ဒီစကားလေးတွေဟာ ရိုးရှင်းလှပါတယ်။ အသေးအဖွဲလေးတွေပါ။ ဒါပေမယ့် ကြီးမားတဲ့ ပြဿနာတွေကို ကုစားနိုင်စွမ်းရှိပါတယ်။ အလ္လာဟ့်အမိန့်နာခံရင် လိုရာအချစ်တွေရလာမယ်။ အိမ်ထောင်ရေးတွေ သာယာလာမယ်။

အားလုံးလိုက်နာကြလိမ့်မယ်လို့ မျှော်လင့်ပါတယ်။ သာယာလှပတဲ့ အိမ်ထောင်မှုဘဝကို ပိုင်ဆိုင်နိုင်ပါစေ။ အလ္လာဟ်အရှင်မြတ် အမျိုးသမီးအားလုံးကို အိမ်ထောင်ရေး ကံကောင်းသူများအဖြစ်ပြုလုပ်ပေးသနားတော်မူပါစေ။ (အာမီးန်)

# သာယာလှပသည့် အိမ်ထောင်ရေး တစ်ခုတည်ထောင်နိုင်ရန် ဇနီးသည်တို့ လိုက်နာရမည့် ကျင့်ဝတ် ဝတ္တရားများ







الحمد لله وكفى وسلام على عباده الذين اصطفى ، أمابعد ؛

أعـوذ بـالله من الشيطان الرجيم ، بسم الله الرحمن الرحيم . ﴿ والله لايحب الفساد﴾. سبحن ربك رب العزة عمايصفون ، وسلام على المرسلين والحمد لله رب العالمين .اللهم صل على سيدنا محمد وعلى آل سيدنا محمد وبارك وسلم .

**ပဋိပက္ခပယ်သိမ်း အေးငြိမ်းပါစေ**

မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်ဟာ ပဋိပက္ခတွေ၊ ပြဿနာတွေ၊ အဖျက်အမှောင့်လုပ်ငန်းတွေကို လုံးဝမနှစ်သက်ပါဘူး။ ကျွန်တော်တို့အိမ်တွေ၊ ပတ်ဝန်းကျင်တွေကနေ ပြဿနာတွေ ဘယ်လို ချုပ်ငြိမ်းသွားမလဲ၊ ပဋိပက္ခမီးတွေဘယ်လိုငြိမ်းသတ်ကြမလဲဆိုတာနဲ့ ပတ်သက်ပြီး ရက်အတန်ကြာတည်းက ကျွန်တော်ပြောနေခဲ့ပါတယ်။

ဒီပြဿနာတွေထဲမှာ အကြီးဆုံးကတော့ ဇနီးမောင်နှံနှစ်ဦးကြား ဖြစ်ပွားတဲ့ ပြဿနာတွေပါပဲ။ ဇနီးမောင်နှံနှစ်ဦးပေါင်းပြီးမှသာ အိမ်ထောင်တစ်ခုတည်ဆောက်ရပါတယ်။ ဒီအိမ်ထောင်ဦးစီးနှစ်ဦးကြားမှာ ပြဿနာဖြစ်ပွားခြင်းဟာ အိမ် မသာယာမှုရဲ့ လက္ခဏာပါပဲ။

**ခိုင်မြဲတဲ့ အချစ်နှောင်ကြိုး**

ဇနီးမောင်နှံနှစ်ဦးကြားမှာရှိတဲ့ သံယောဇဉ်ဆိုတာ ပြတ်တောက်လွယ်တဲ့ ကြိုးမျိုးမဟုတ်ပါဘူး။ ခိုင်မြဲတဲ့ နှောင်ကြိုးတစ်မျိုးပါ။ ဒါ့ကြောင့်ပဲ အလ္လာဟ်အရှင်မြတ်က ﴿وأخذن منكم ميثاقا غليظا﴾ "ကေန်စင်စစ် အသင်တို့သည် တစ်ဦးနှင့်တစ်ဦး (အကြင်ဇနီးမောင်နှံအဖြစ်




ပေါင်းသင်းဆက်ဆံ)ရောနှောစက်ယှက်ပြီး ဖြစ်ကြသည့်ပြင်၊ ယင်း ဇနီးမိန်းမတို့သည်(မိမိတို့၏ အခွင့်အရေးများနှင့်စပ်လျဉ်း၍) အသင်တို့ထံမှ ခိုင်မာသောကတိသစ္စာ ပဋိညာဉ်ဝန်ခံချက်ကိုလည်း ယူထားပြီး ဖြစ်ကြလေသတည်း။" လို့မိန့်ထားပါတယ်။ (ကုရ်အာန် ၄း၂၁)

**အေးအတူပူအမျှ ဇနီးမောင်နှံတို့ဘဝ**

ကျမ်းတော်မြတ်ကုရ်အာန်ရဲ့ အခြားတစ်နေရာမှာ ဇနီးတွေဟာ အမျိုးသားတွေရဲ့ လက်ရုံးဖြစ်တယ်လို့မိန့်ထားပြန်တယ်။ ဇနီးသည်တွေဟာ တစ်သက်လုံး အေးအတူပူအမျှခံစားပေးမယ့် ဘဝကြင်ဖော်တွေ ဖြစ်ကြတယ်။ ဒ့ါကြောင့် ဇနီးမောင်နှံနှစ်ဦးလုံးဟာ နားလည်မှုတွေ၊ မေတ္တာတွေနဲ့ မိမိတို့ရဲ့အိမ်ထောင်ရေးကို တည်ဆောက်သင့်ပါတယ်။ ရှိုင်သွာန်ကို နှောက်ယှက်ဖို့လမ်းစတောင် မပေးမိပါစေနဲ့။

အုပ်ခဲလေးတွေပူးပေါင်းလိုက်ခြင်းကြောင့် အိမ်လေးတွေဖြစ်လာတယ်။ နှလုံးသားတွေပေါင်းစည်းသွားရင်တော့ အိမ်တွေသာယာလာပါလိမ့်မယ်။ အိမ်သာယာစေဖို့တာဝန်ဟာ ဇနီးမောင်နှံနှစ်ဦးလုံးပေါ်မှာရှိနေပါတယ်။ ဒ့ါကြောင့်နှစ်ဦးလုံးဟာ ကြင်နာခြင်းကို အဖော်ပြုရမယ်။

**အချစ်နဲ့အပြစ်ကို ဖုံးပေးပါ**

လောကရဲ့ နိယာမတစ်ခုကို အမြဲနှလုံးသွင်းထားပါ။ "အချစ်စစ်ရင် အပြစ်ကြီးတွေဟာ သေးမွှားသွားတယ်၊ အချစ်မစစ်ရင်တော့ အပြစ်လေးတွေတောင် ကြီးထွားလာလိမ့်မယ်။"

ဒ့ါကြောင့်လည်း ရှရီအသ်တရားတော်မြတ်က ဇနီးမောင်နှံနှစ်ဦးဟာ တရားဝင်ထိမ်းမြားပြီးတဲ့နောက်မှာ ချစ်ခြင်းဟာ ဆဝါးဗ်ရစေမယ့်




ကိစ္စဖြစ်တယ်လို့ မိန့်ခွန်းထားတာပေ့။ ဇနီးမောင်နှံနှစ်ဦးအချင်းချင်း ဘယ်လောက်ချစ်ကြမလဲ၊ အဲ့လောက် အလ္လာဟ်အရှင်မြတ်ကလည်း သူတို့နှစ်ဦးလုံးကို ကြေနပ်နှစ်သက်တော်မူလိမ့်မယ်။

ဟဒီးဆ်တော်တစ်ပုဒ်မှာ အောက်ပါအတိုင်းလာရှိပါတယ်။ "ခင်ပွန်းသည်ဟာ ဇနီးသည်ကိုကြည့်ပြီးပြုံးမယ်၊ ခင်ပွန်းကိုကြည့်ပြီး ဇနီးရဲ့ မျက်နှာမှာလည်း ပြုံးရိပ်တွေခိုတွဲသွားမယ်ဆိုရင် အလ္လာဟ်အရှင်မြတ်ကလည်း ထိုဇနီးမောင်နှံကိုကြည့်ပြီး ပြုံးပျော်တော်မူလိမ့်မယ်။"

**အိမ်ရှင်မ ကောရီများ**

ဒီနေ့တော့ အမျိုးသမီးတွေကို ဆုံးမချင်တယ်။ သူတို့ရဲ့ ဘယ်ပြုမူဆောင်ရွက်ချက်တွေ၊ ဘယ်လိုအားနည်းချက်တွေကြောင့် အိမ်ထောင်ရေးတွေပြိုကွဲသွားနိုင်လဲ ဆိုတာတွေပေ့။ အင်န်ရှာအလ္လာဟ် ခင်ပွန်းသည်တွေဘက်က လိုအပ်ချက်တွေကိုလည်း ဆက်ပြီးပြောသွားပါမယ်။

ကုရ်အာန်ရဲ့ အိမ်ထောင်ရေးဥပဒေတစ်ခုကို မှတ်သားထားပါ။ မြင့်မြတ်တော်မူသောအလ္လာဟ်အရှင်မြတ်က ကျမ်းတော်မြတ်ကုရ်အာန်မှာ နေကာထိမ်းမြားခြင်းရဲ့ရည်ရွက်တစ်ခုကို အခုလိုဖော်ပြထားတယ်။ "ထိုအရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏ အမျိုးအစားအနက်မှပင် ကြင်ယာကြင်ဖက်များကို ၎င်းတို့ထံတွင် အသင်တို့ အနားယူစိတ်ချမ်းသာမှုရရှိကြအံ့သောငှာ ဖန်ဆင်းတော်မူခဲ့၏။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့စပ်ကြား၌ ချစ်ခြင်းမေတ္တာ၊ အကြင်နာတရားတို့ကိုစီမံပြုလုပ်၍ပေးသနားတော်မူခဲ့၏။" (ကုရ်အာန် ၃၀း၂၀)

ဇနီးမောင်နှံတို့၏ ဆက်ဆံရေးသည် ချစ်ခြင်းမေတ္တာနှင့် သနား




ကြင်နာသထောက်ထား စာနာလေးစား ခင်မင်ရင်းနှီးမှုများပေါ်တွင်တည် ရှိနေရမည်။ အမျိုးသမီးသည် ခင်ပွန်းသည်အား ကိုယ်စိတ်နှစ်ဖြာကျန်း မာချမ်းသာစေရမည်။

ဒါ့ကြောင့်အမျိုးသမီးဟာ အမျိုးသားရဲ့ ဟဒယနှလုံးကို ရွှင်ပြုံးစေ မယ်ဆိုရင် ကိုယ်တိုင်လည်း ပျော်လို့မဆုံး၊ ပြုံးလို့မဝနိုင်ဘဲ ဘဝကုန်ဆုံး ရလိမ့်မယ်။ အမျိုးသားကို စိတ်ဒုက္ခရောက်စေတဲ့ အမျိုးသမီးကတော့ ကိုယ်တိုင်လည်း ဒုက္ခသုက္ခနဲ့သာ ရင်ဆိုင်နေရမှာပါ။ ဒီတော့ အိမ်ကို သာယာစည်ကားအောင်လုပ်ခြင်းဟာ အမျိုးသမီးရဲ့ လက်ထဲမှာပဲ တည်ရှိနေပါတယ်။ ရှေးလူကြီးတွေဆိုကြတယ်။ "အမျိုးသားဟာ ပုဆိန် ကိုင်ပြီး အိမ်ကို ဖြိုဖို့ကြိုးစားမယ်၊ အမျိုးသမီးကတော့ အပ်နဲ့ပဲ အိမ်ကို ဖြိုမယ်ဆိုရင် အမျိုးသားထက်အရင် အမျိုးသမီးကပဲ အိမ်ကိုဖြိုချနိုင်မှာ ပါ။" ဒါ့ကြောင့် ဇနီးသည်ကို 'အိမ်ရှင်မ' လို့ခေါ်ကြတာပေါ့။

မှတ်ထားလိုက်ပါ။ ဥစ္စာလည်းပေါ၊ရုပ်လည်းချော၊ ပညာလည်း နှောနေတဲ့အမျိုးသမီးပင်ဖြစ်နေပါစေ အမျိုးသား နှလုံးစံအိမ်ရဲ့ ဧကရီ ဖြစ်ဖို့ အသိဉာဏ်ရှိရပါတယ်။

ဒါ့ကြောင့် လောကီရဲ့ အိမ်ထောင်ရေးခရီးလေးသာယာဖြောင့်ဖြူး ဖို့အတွက် သံယောစဉ်ကြိုးတွေခိုင်မြဲပါစေ။ အချစ်ပန်းခင်းကို ကြင်နာ ခြင်းနဲ့ လမ်းခင်းထားပါ၊ ယုယမှုတွေနဲ့ ရံထားလိုက်ပါ။

**အချစ်ရေးကို အရှုံးမပေးနဲ့**

ဇနီးသည်ဟာ ခင်ပွန်းကို အချစ်ရေးမှာအရှုံးမပေးဘဲ ယုံကြည်မှု တွေ စိုက်ထူပေးလိုက်ပါ။ အချစ်ပြရုံနဲ့ မလုံလောက်ပါဘူး။ ရင်ထဲ

အသည်းထဲကနေ လှိုက်လှိုက်လှဲလှဲ အချစ်တွေကို ခံစားစေလိုက်ပါ။ ငါ့ဇနီးဟာ ငါ့ကို နှစ်နှစ်ကာကာချစ်နေတယ်လို့ ခင်ပွန်းရဲ့ နှလုံးသားက သက်သေထူလာအောင် ချစ်ပြလိုက်စမ်းပါ။ ခင်ပွန်းရှေ့မှာ မူနေတာ၊ ခေါင်းမာနေတာ၊ အိုက်တင်ခံနေတာတွေဟာ ပြဿနာရဲ့ အုတ်မြစ်တွေဖြစ်သွားတတ်ပါတယ်။

ရှိုင်သွာန်ကလည်း ဘယ်လောက်တောင် ဆိုးယုတ်လည်းဆိုတော့ ခင်ပွန်းအနားရောက်ချိန်မှာ ဇနီးသည်စိတ်ထဲကို ရှက်ကြောက်စိတ်တွေ ထည့်ပေးတတ်တယ်။ တခြား အခမ်းအနားတွေ၊ ပွဲတွေရောက်ချိန်မှာတော့ အမျိုးသမီးကို ရှိုင်သွာန်က ရဲတင်းရွှင်မြူးစေတယ်ဗျာ။

ရှုရီအသ်က အချစ်ပြလို့ပြောတဲ့နေရာမှာ အချစ်ပြလိုက်ခြင်းဟာ ဆဝါးဗ်ရစေတယ်ဆိုတာကို မှတ်ထားပါ။

များစွာသောနေရာတွေမှာ ဖြစ်နေသမျှ ပြဿနာတွေရဲ့ဇစ်မြစ်ကိုသုံးသပ်ကြည့်တော့၊ အမျိုးသားဟာ ဇနီးကို ချစ်လည်းချစ်နေတယ်။ အချစ်လည်းထုတ်ဖော်ပြသနေတယ်။ ဇနီးလည်း စိတ်ထဲမှာတော့ ပျော်ရွှင်နေတယ်။ ဒါပေမယ့်လည်း ခင်ပွန်းရဲ့ အချစ်တွေပုံအောပေးမှုပေါ် ဘယ်လိုမှ မခံစားရသလို အိုက်တင်ပြတယ်။ ဒီအချစ်တွေငါမလိုအပ်ဘူးဆိုတဲ့ အချိုးမျိုးတွေပြတယ်။ ဒီအမူအရာဟာ အိမ်ထောင်ရေးကို မွှေနှောက်ပစ်မယ့် မွှေစက်လိုပဲ။ ဒီထက်ကြီးမားတဲ့ မွှေစက်မျိုးကို အမျိုးသမီးဟာ တွေ့ဖူးမှာတောင်မဟုတ်ဘူး။

**အချစ်မှတ်တိုင် တကယ်ပြစမ်းပါ**

အချစ်ရဲ့အဖြေကို အချစ်နဲ့ပေးရပါတယ်။ ခင်ပွန်းက ဇနီးရဲ့




အချစ်တွေကို မက်မောပါတယ်။ အချစ်တွေပြစေလိုခြင်းဟာ အမျိုးသမီးအတွက် ရွှေရောင်အခွင့်အရေးပဲ။ ဒီလိုအခွင့်အရေး ရနေချိန်မှာ အမျိုးသားရဲ့ ဟဒယနှလုံးရွှင်ပြုံးစေမယ့်စကားတွေ ပြောရမယ်။

လူကြီးမင်းတို့ နားဆင်ကြည့်ပါ။ ကျွန်တော်တို့ရဲ့ မိခင်မွန်ကြီး ဟဇရသ်အာအေရှာ رضي الله عنها သခင်မကြီးဟာ ကိုယ်တော်မြတ် ﷺ ကို အရမ်းချစ်ခဲ့တယ်။ အချစ်သက်သေတွေလည်း များစွာထူခဲ့တယ်။ တစ်ခါက စကားစမြည်ပြောနေရင်း ကိုယ်တော်မြတ် ﷺ က "အာအေရှာ၊ အသင်မဟာ ငါ့အတွက် မခမ်းနဲ့သကြားလူးပြီးစားတာထက် ပိုပြီးနှစ်လိုဖွယ်ကောင်းပါတယ်။" မိခင်မွန်ကြီး အာအေရှာသခင်မက ပြုံးပြီး ချက်ချင်းအဖြေပေးလိုက်တယ်။ "အို-အလ္လာဟ်ရဲ့ချစ်နဗီ၊ ကိုယ်တော်ဟာ ကျွန်မအတွက် မခမ်းနဲ့ပျားရည် ရောပြီးစားသုံးရတာထက်ပိုမိုနှစ်လိုဖွယ်ကောင်းပါတယ်။" ကိုယ်တော်မြတ် ﷺ လည်း ပြုံးရွှင်တော်မူပြီး "အာအေရှာ၊ သင်မရဲ့အဖြေဟာ အရမ်းကိုကောင်းမွန် ပြောင်မြောက်လှပါပေတယ်။" လို့ ပြောကြားတော်မူခဲ့တယ်။

ကြည့်လိုက်ပါ။ ခင်ပွန်းကဒူးလောက်တင်တဲ့ အချစ်စကားဆိုလိုက်တော့ ဇနီးက ရင်လောက်ကျတဲ့ အချစ်စကားနဲ့ တုံ့ပြန်လိုက်တယ်။ အချစ်ခရီးမှာ တစ်လှမ်းပိုတဲ့သဘောပေါ့။ ကိုယ့်ခင်ပွန်းနဲ့ အချစ်စကားတွေမပြော၊ အချစ်တွေထုတ်မပြရင် ဘယ်သူ့ကို အချစ်တွေပြော၊ ပြမှာလဲ။

**သက်ရောက်မှုတိုင်း အတွက် ညီမျှတဲ့ တန်ပြန်မှု**

လူ့သဘာဝကိုက တစ်ဦးတစ်ယောက်ကို ချစ်လိုက်ပြီဆိုတာနဲ့ ညီ

မျှတဲ့ တန်ပြန်အချစ်ကို လိုချင်လာတယ်။ ကိုယ့်ချစ်သူရဲ့ အချစ်ပြယုဂ်ကို မက်မောတတ်တယ်။ မှတ်ထားပါ။ "အချစ်နဲ့ ကတိုးနံ့သာဆိုတာ ဖုံးကွယ်ထားလို့မရတဲ့ ရတနာတွေပါ။" ဘယ်နေရာ ရောက်ရောက် သူတို့ကို ဖော်ထုတ်ပြသပေးစေလိုတယ်။

ငါခင်ပွန်းကို အချစ်ပြလိုက်ရင် အဆင့်နိမ့်သွားမယ်၊Rollအောက်သွားမယ်၊ ငါ့အချစ်တွေတန်ဖိုးမဲ့သွားလိမ့်မယ်လို့ ထင်မြင်ယူဆခြင်းဟာ မဟာအမှားကြီးပါပဲ။

တစ်ယောက်က ကိုယ်နှုတ်နှလုံးသုံးပါလုံးနဲ့ အချစ်သက်သေထူနေတယ်။ တခြားတစ်ယောက်က ငါပြန်ချစ်ပြရင် ငါ့အချစ်ယုတ်လျော့သွားလိမ့်မယ်လို့ ထင်မြင်ရင် ဘယ်လိုဖြစ်နိုင်ပါ့မလဲ။

ခင်ပွန်းက နွေးထွေးတဲ့အချစ်တွေကို လိုအပ်နေချိန်မှာ ဇနီးက အသက်မပါဘဲ အေးစက်နေတဲ့ ဟန်အမူအရာတွေနဲ့ တုန့်ပြန်မယ်ဆိုရင်တော့ ဒီအမျိုးသမီးဟာ ကိုယ့်အိမ်ရဲ့ သာယာစည်ကားမှုကို ပျောက်အောင်လုပ်ဖို့ ကြိုးစားနေတာပဲ။

**အမှားတစ်ခုရဲ့ ထာဝရအစား**

ဒီနေရာမှာ ကျော်ကြားလှပြီး အရမ်းကို သံဝေဂယူဖွယ်ကောင်းတဲ့ အကြောင်းအရာလေးတစ်ခုတင်ပြပါမယ်။ "ဆင်းရဲတဲ့မျိုးနွယ်ထဲက ရုပ်အရမ်းချော မောလှပတဲ့အမျိုးသမီးတစ်ဦးရှိခဲ့တယ်။ မိဘတွေလည်း ဒီမိန်းမလှလေးကို ဘယ်သူလက်ဆက်ဖို့ ကမ်းလှမ်းလာမလဲဆိုတာကို စဉ်းစားတွေးမျှော်နေကြတယ်။ တစ်နေ့ ဆွေကြီးမျိုးကြီးထဲက သူဌေးလူပျိုလေးတစ်ဦးက သူမကိုမင်္ဂလာကမ်းလှမ်းပြီး နေကာဟ်ထိမ်းမြား




ခဲ့တယ်။ မိဘနှစ်ပါးကလည်း သူတို့ရဲ့သမီးလေး ကောင်းတဲ့နေရာမှာ အိမ်ထောင်ကျသွားလို့ အပြုံးပန်းတွေ ဆင်နေခဲ့တယ်။ မိဘတွေက စဉ်းစားနေမိတယ်။ သစ်တစ်ပင်ကောင်း ငှက်တစ်သောင်းနားရတယ် ဆိုသလို သမီးလေးရဲ့ အစ်ကိုတွေအတွက်လည်း အလုပ်အကိုင်ရလာမယ်။ သမီးကိုယ်တိုင်လည်း ပျော်ရွှင်စွာနဲ့ ဘဝကို ကုန်ဆုံးနိုင်မယ် ပေါ့။

ဇနီးမောင်နှံနှစ်ဦး အိမ်ကိုရောက်လေတော့ ခင်ပွန်းက ဆင်းရဲတွင်းကလာတဲ့ မိမိရဲ့ဇနီးလှလေးကို အချစ်တွေ ပုံအောပြီးပေးတယ်။ ဒါပေမယ့်လည်း ဇနီးဟာ ခင်ပွန်းရဲ့အချစ်တွေကို ကြည့်ပြီး စိတ်ကြီးဝင်သွားတယ်။ မူယာမာယာတွေ များလာတော့တယ်။ ခင်ပွန်းရဲ့ အချစ်စစ်တွေကို မူယာမာယာတွေနဲ့ပဲ တုန့်ပြန်တယ်။ ခင်ပွန်းခမျာ ဒီဇနီးလေးရဲ့အချစ်ကိုရဖို့အရာအားလုံး စတေးဖို့အဆင်သင့်ဖြစ်နေတယ်။ နေ့မနားညမအား ဇနီးရဲ့အချစ်တွေရဖို့ အချစ်မှတ်တိုင်တွေ စိုက်ထူနေခဲ့တယ်။ "မင်းဟာ ငါ့နှလုံးစံအိမ်ရဲ့ ဧကရီပဲ၊ ငါ့ရဲ့ရင်ခွင်နန်းတော်ရဲ့ တော်ဝင်မင်းသမီးလေးပဲ၊ မင်းကငါ့ရဲ့ လောကီအိမ်လေးကို ဂျန္နသ်အသွင်ဖန်တီးလိုက်ပြီ၊ ဘဝမှာ ဒီလောက်ချောမောလှပတဲ့ မဟေသီမျိုးရလိမ့်မယ်လို့ အိပ်မက်တောင် မမက်ခဲ့ဖူးဘူး။" ဇနီးကလည်း ခင်ပွန်းရဲ့ချီးမွမ်းသံတွေ ကြားရလေတိုင်း ပိုပြီး မူယာမာယာတွေ များများလာတယ်။ ညီမျှတဲ့ တန်ပြန်အချစ်တွေကင်းမဲ့စွာနဲ့ပဲ ရက်အချို့ ကုန်ဆုံးသွားတော့တယ်။ တစ်ရက်မှာ ငိုယိုပြီး ဒီအမျိုးသမီးဟာ မိဘအိမ်ပြန်လာတယ်။ ခင်ပွန်းကလည်း သူမကိုထားသွားခဲ့ပြီ။





မိခင်က ဘာဖြစ်တာလဲလို့ တအံ့တသြမေးတော့ သမီးကပြောတယ်။ "သမီးခင်ပွန်းဟာ သမီးကိုအရမ်းချစ်ခဲ့၊ အရမ်းအလိုလိုက်ခဲ့ပါတယ်။ သမီးကလည်းသူ့ကို ချစ်ပါတယ်။ ဒါပေမယ့် သမီးကသူ့ရဲ့အချစ်တွေအပေါ် ရင်မခုန်တဲ့ ပုံစံနဲ့ဟန်ဆောင်နေခဲ့တယ်။ မတတ်နိုင်တဲ့ အဆုံးသူက "ငါမင်းကိုချစ်သလောက် မင်းကရော ငါ့ကို ချစ်ရဲ့လား"လို့ ဖွင့်မေးလာတယ်။ အဲ့ဒီအချိန်မှာ သမီးက မိုက်မဲစွာနဲ့ မာယာများပြီး "ရှင့်ကို ကျွန်မ မချစ်ဘူး"လို့ ပြောလိုက်မိတယ်။ ဒီစကားကို ကြားတာနဲ့ ခင်ပွန်းဟာ စိတ်ဆိုးပြီး"ငါ့ကို မချစ်ရင် ချစ်တဲ့သူတွေဆီမှာ သွားနေ၊ ငါဘက်က မင်းကို (၃)သွလားက်"ဆိုပြီး သမီးကိုစွန့်ပစ်သွားတယ်။ နေကာဟ်ပြီးတာ တစ်လပဲရှိသေးတယ်။ သွလားက်ရသွားတယ်။ ပြီးတော့ မိဘနှစ်ပါးရဲ့ အိမ်မှာပဲ ဆက်နေရတော့တယ်။ အခုမှ သူ့ရဲ့ မာယာ အမူးပြေသွားတယ်။ ဦးနှောက် အာရုံတွေ ပွင့်လာတယ်။

لمحوں میں خطائیں کیں      صدیوں میں سزا پائی

"စက္ကန့်ပိုင်းလေး အပြစ်လုပ်မိသွားတယ်။ တစ်သက်လုံးအပြစ်ဒဏ်ခံရတော့တယ်။"

နောက်ပိုင်းမှာ အဲဒီအမျိုးသမီးရဲ့ ဒုတိယနေကာဟ် မဖြစ်နိုင်တော့ဘူး။ မွန်မြတ်တဲ့ အသိုင်းအဝိုင်းကလူတွေကလည်း အပျိုစစ်စစ်နဲ့ပဲ နေကာလုပ်ပေးလိုကြတယ်။ ဒီအမျိုးသမီးရဲ့ သမိုင်းမှာ တစ်ခုလပ်ဆိုတဲ့ အမည်းစက်ထင်သွားခဲ့ပြီ။

သူမကို နေကာဟ်ကမ်းလှမ်းလာပြန်တော့လည်း ဇရာပြိုယိုယွင်းပြီး အိုမင်းမစွမ်းဖြစ်နေသူတွေ။ သူတို့နဲ့ လက်တွဲဖို့ကျတော့လည်း ဒီ

အမျိုးသမီးက ကြောက်ပြန်တယ်။ နောက်ဆုံး အလွန်ရှုပါချောလှတဲ့ ရွှေရုပ်လွှာကို ပိုင်ဆိုင်ခဲ့ရတဲ့ အမျိုးသမီးရဲ့ဘဝဟာ ဒူးနဲ့ မျက်ရည် သုတ်ရင်းနဲ့ပဲ ကုန်ဆုံးသွားခဲ့တယ်။ မဟာငတုံးလို့ပဲပြောရမယ်။ ခင်ပွန်း ဆိုတာ ဘဝကြင်ဖော်ပဲ။ သူ့ရဲ့ဘဝအေးချမ်းဖို့ တည်ငြိမ်ဖို့ လက်ထပ် တာဖြစ်တယ်။ ပြီးတော့ သူချစ်သလောက် ဇနီးကရော သူ့ကိုချစ် သလားဆိုတာကိုလည်း သိချင်တယ်။ ဇနီးရဲ့အချစ်သက်သေကိုလည်း လိုချင်တယ်။ ဇနီးကလည်း ခင်ပွန်းကိုချစ်ကြောင်း မရှက်တမ်းဖွင့်ဟ ထုတ်ဖော်သင့်ပါတယ်။ “ရှင်သာလျှင်ကျွန်မရဲ့ ဘဝကြင်ဖော်အစစ်၊ ရှင်တစ်ဦးတည်းတိုပဲချစ်ပါတယ်။ ကျွန်မရဲ့ လိုအင်ဆန္ဒတွေ၊ အချစ် တွေ အားလုံးကို ရှင့်အတွက် သစ္စာနှံထားပြီးသားပါ။ ရှင်ကပဲ ကျွန်မရဲ့ ဘဝလေးကို ဂျန္နသ်အဖြစ် ထုဆစ်ပေးထားတယ်။ ကျွန်မရဲ့ ပျော်ရွှင်မှု တွေ အားလုံးဟာလည်း ရှင့်အပြုံးနဲ့ပဲ ဆက်နွယ်နေပါတယ်။”ဆိုတဲ့ စကားမျိုးတွေ ပြောဖို့ ဘယ်အရာက တားဆီးနေသလဲ။ စိတ်ရိုင်းရဲ့ လှုံ့ဆော်မှု၊ ရှိုင်သွာန်ရဲ့ လှည့်ဖြားမှုတို့မဟုတ်ရင် တခြားဘာရှိနိုင်ပါ ဦးမလဲ။

**အမြဲပေါ်နေမယ့် နေမင်း**

မိခင်မွန်ကြီး အာအေရှာ သခင်မဟာ ကိုယ်တော့်အတွက် အချစ် ကဗျာတွေလည်း သီကုံးခဲ့တယ်။ အခုပြောမယ့် သခင်မရဲ့ အချစ်ကဗျာ ဟာ အရမ်းကို ကျော်ကြားပါတယ်။ နဗီတမန်တော်မြတ် ﷺ ဟာ အေရှာပြီး ဆွဟာဗာသာဝကကြီးများရဲ့ ထိုင်ဝိုင်းပြီးဆုံးချိန် အိမ်ကို ကြွမြန်းလာတော်မူတယ်။ မိခင်မွန် အာအေရှာသခင်မကြီးက ပြောပြပါ

တယ်။ "ချစ်နဗီရဲ့ ရွှေမျက်နှာတော်မှာ ပြုံးရိပ်တွေခိုတွဲလျှက် စလာမ် ပေးပြီး အိမ်ကိုကြွမြန်းလာပါတယ်။ ထိုအချိန်သခင်မကြီးကလည်း မိမိ သီကုံးထားတဲ့ ကဗျာများအား ကိုယ့်တော်ကို ဆက်သတယ်။

لنا شمس وللآفاق شمس وشمسي خير من شمس السماء

فإن الشمس تطلع بعد فجر وشـمـسي طـالــع بعد العشـاء

"အို-အာကာကောင်းကင် အသင်မှာလည်း နေတစ်စင်းရှိသလို၊ ငါတို့မှာလည်း သူရိယနေမင်းတစ်ခုရှိတယ်။ ဒါပေမယ့်ကျွန်မပိုင်ဆိုင် ထားတဲ့ နေမင်းကြီးဟာ မိုးကောင်းကင်ရဲ့ နေမင်းထက်ပိုကောင်းပါ တယ်။

မိုးကောင်းကင်ရဲ့ နေမင်းဟာ ဖဂျ်ရ်ပြီးမှထွက်ပြူတယ်။ ကျွန်မရဲ့ နေမင်းကတော့ အေရှာပြီးတာနဲ့ စထွက်ပါတယ်။

ကဲ. . . အခုစဉ်းစားကြည့်ပါ။ ဇနီးသည်ဟာ ဒီလိုသာယာချိုအေး တဲ့ စကားလုံးလေးတွေနဲ့ ကြိုဆိုမယ်ဆိုရင် ခင်ပွန်းသည်ရဲ့နှလုံးသား ထဲမှာ ဇနီးရဲ့ အချစ်ဘယ်လောက်တိုးလာမလဲ။

လူကြီးမင်းတို့ဇနီးတွေရော အချစ်ကဗျာတွေရေးစပ်ဖွဲ့သီကြလား၊ ဒီလိုခင်ပွန်းအချစ်ကို ဆွဲငင်စေမယ့် စကားတွေရောပြောဖူးပါသလား။

**မချစ်တတ်သူများ သတိထား**

ဝမ်းနည်းဖို့ကောင်းတာက အမျိုးသမီးတွေအထင်လွဲမှားနေတယ်။ "အချစ်တွေ ထုတ်ဖော်တာဟာ အမျိုးသားရဲ့တာဝန်ပဲ။ ငါက ဘယ် လောက်အချစ်မပြဘဲ မူနေမလဲ၊ အဲ့လောက်အချစ်ခံရမယ်"လို့ ထင်နေ ကြတယ်။ ဒါဟာ မဟာအမှားကြီးပါပဲ။ လက်ခုပ်ဆိုတာ လက်နှစ်ဖက်




နဲ့ တီးမှုမြည်တာလေ။ ဒါ့ကြောင့် အကောင်းဆုံးဟန်ပန်နဲ့ အချစ်ကို ဖော်ထုတ်ဖို့ကြိုးစားရမယ်။ ကိုယ်၊ နှုတ်၊ နှလုံး သုံးပါးလုံးနဲ့ အချစ်ကို သက်သေထူရမယ်။

ခင်ပွန်းကချစ်တယ်လို့ ထုတ်ဖော်ပြောနေရင် ဇနီးကလည်း ချစ်ကြောင်းပြောပေးရမယ်။ “ငါ့ဇနီးဟာ ငါ့တစ်ဦးတည်းကိုပဲချစ်တယ်လို့ ယုံကြည်စိတ်ချသွားစေမယ့် စကားလုံးမျိုးတွေပြောပါ။” ခင်ပွန်းသည်က ဇနီးရဲ့အချစ်မှာ သံသယဖြစ်သွားမယ်။ “ငါ့ဇနီးက ငါ့ကိုလည်း ချစ်တယ်” ဒီ ‘ပဲ’ နဲ့ ‘လည်း’ဟာ နှလုံးသားမှာစိုက်ထူထားတဲ့ အချစ် မှတ်တိုင်တွေကို ပြိုလဲစေတယ်။ ဒါ့ကြောင့်သံသယကင်းတဲ့အချစ်မျိုးနဲ့ ခင်ပွန်းကိုပဲချစ်တယ်ဆိုကြောင်း ဖော်ပြပေးမယ့် လုပ်ရပ်တွေကိုလုပ်ပါ။

**ခင်ပွန်းသည်ပျော်ရွှင်ရေး ဦးစားပေး**

နောက်တစ်ခုက မိမိရဲ့ပျော်ရွှင်မှုထက် ခင်ပွန်းသည်ရဲ့ပျော်ရွှင်မှုကို ဦးစားပေးတတ်ရမယ်။ ခင်ပွန်းသည် ပျော်ရွှင်စေမယ့်ကိစ္စတွေကို ဆောင်ရွက်ပေးဖို့ပဲ ကြိုးစားနေရမယ်။ ငါပဲ အမြဲ ပျော်နေရမယ်လို့ မတွေးမိပါစေနဲ့။ ခင်ပွန်းပျော်စေဖို့လည်းသတိထားပေးရမယ်။ ခင်ပွန်း ပျော်ရွှင်နေမှပဲ အိမ်မှုကိစ္စတွေကို ပျော်ပျော်နဲ့ ဆောင်ရွက်ပေးမှာပေါ့။ ဒါတင်မကသေးဘူး သူ့ရဲ့ အတွေးအာရုံတွေဟာ အပြင်ဘက်ကို မရောက်တော့ဘဲ အိမ်တွင်းမှာပဲ အမြဲရစ်သိုင်းနေတော့မှာပေါ့။ ရုံးမှာထိုင်ပြီးတော့လည်း အိမ်ကိုလွမ်းဆွတ်နေမယ်။ လူတွေကစီးပွားရေးကြောင်းတွေ လာပြောနေပေမယ့်လည်း အလုပ်သိမ်းချိန်အိမ်ကိုပဲ ပြန်လာဖို့ စိုင်းပြင်းနေလိမ့်မယ်။ ဘာကြောင့်လည်းဆိုတော့ ဒီခင်ပွန်းဟာ





စဉ်းစားတယ်။ အိမ်ရောက်မှပဲ ငါဟာ ပျော်ရွှင်အေးချမ်းမှုရမယ်။

**ခင်ပွန်းမကြိုက်တာ မလုပ်နဲ့ဗျာ**

ဇနီးဟာ ခင်ပွန်းမကြိုက်တာတွေမလုပ်မိပါစေနဲ့။ များသောအားဖြင့် ခင်ပွန်းကဇနီးကို (ရှုရီအသ်ဘောင်အတွင်းကနေ) ကိစ္စတစ်ခုကို မလုပ်ဖို့တားမြစ်တယ်။ အမျိုးသမီးက ရွဲ့ပြီးဆက်လုပ်တယ်။ တားမြစ်ထားပါလျှက် ဒီကိစ္စကိုပဲ ဆက်လုပ်ခြင်းဟာ ပြဿနာရဲ့ မီးစဖြစ်သွားမှာ သေချာပါတယ်။

**တာဝန်သိပါ သစ္စာရှိပါ**

နောက်တစ်ချက်ကတော့ ခင်ပွန်းသည်က တာဝန်တစ်ခုပေးလာရင် နောက်ကလိုက်စရာမလိုအောင်၊ စိတ်ချလက်ချဖြစ်သွားစေမယ့်ပုံစံမျိုးနဲ့လုပ်ပြလိုက်ပါ။ ခင်ပွန်းခိုင်းထားတာကို မလုပ်သေးဘဲ တခြားကိစ္စတွေထဲမှာ မွေ့လျော်နေတာမျိုးမဖြစ်ပါစေနဲ့။

ပမာအားဖြင့် မနက်ခင်ပွန်းသည် အလုပ်မသွားခင် အဝတ်အစားအဆင်သင့်ဖြစ်ဖို့၊ စားသောက်ဖွယ်ရာတွေ အဆင်သင့်ရှိနေဖို့ဆိုတာ ဇနီးက စီစဉ်ပေးရမှာပါ။ အလုပ်ချိန်ရောက်နေပြီ ဇနီးကအိပ်ယာထနောက်ကျလို့ အကျႌမထုတ်ရသေးဘူးဆိုရင် စိတ်မချမ်းမြေ့ဖွယ်ရာမဖြစ်ပေဘူးလား။ ဒ့ါကြောင့် ကိုယ့်တာဝန်ကိုသိပါ။ ဘယ်အချိန်၊ ဘယ်အရာကို ဘယ်အတိုင်းအတာထိ ဆောင်ရွက်ထားရမလဲဆိုတာကို ချင့်ချိန်သိရှိနေပါ။ အိပ်ယာဝင်၊ အိပ်ယာထဖို့အတွက် သတ်မှတ်ချက်လေးတွေရှိပါစေ။ အရာအားလုံးကို အလုပ်သမားနဲ့ပဲ ခိုင်းလို့မရပါဘူး။ တစ်ချို့ကိစ္စတွေကို ဇနီးကိုယ်တိုင်လုပ်ပေးရပါတယ်။




"ခင်ပွန်းကိုယ်တိုင်ပဲ အကျီထုတ်ဝတ်ပြီး အလုပ်သွားပါလိမ့်မယ်၊ ငါ့အိပ်ရေးထိခိုက်လို့မဖြစ်ဘူး"ဆိုတဲ့ အတွေးတွေဟာ အတိုင်းမရှိတဲ့ တုံးအ'ခြင်းတွေပါ။ ခင်ပွန်းရဲ့ နှလုံးသားကို မိမိရဲ့ ပြုစုယုယမှုတွေနဲ့ အနိုင်ယူထားဖို့လိုပါတယ်။

ဒ့ါကြောင့် ခင်ပွန်းခိုင်းတဲ့အလုပ်တွေဟာ ငါ့ရဲ့ တာဝန်တွေလို့ မှတ်ယူထားပါ။ ခင်ပွန်းရဲ့ လိုအပ်ချက်တွေကို မိမိရဲ့ လိုအပ်ချက်တွေထက် ဦးစားပေးပါ။

**ပူဆာတတ်ပါစေ**

တစ်ခါတလေကျတော့လည်း ဇနီးသည်ဟာ ခင်ပွန်းလုပ်နိုင်တဲ့ အတိုင်းအတာထက်ပိုပြီး ပူဆာတယ်။ ဒ့ါကြောင့်တစ်ခုခုပူဆာတော့မယ်ဆိုရင် ခင်ပွန်းသည်ရဲ့ လုပ်ဆောင်နိုင်စွမ်းကိုလည်း ဂရုစိုက်ပါ။

ခင်ပွန်းသည် ဝယ်မပေးနိုင်တဲ့ အဝတ်အစားကိုဇွတ်အတင်းဝယ်ဝတ်ရင် ခင်ပွန်းသည်ပျော်ရွှင်နိုင်ပါ့မလား။ စိတ်မပျော်ရင် အသင်မရဲ့ လှပတဲ့အဝတ်အစားတွေ၊ အလှတွေဟာ ခင်ပွန်းသည်ရဲ့ အချစ်ကို တိုးပွားအောင်လုပ်မပေးနိုင်ပါဘူး။ ဒ့ါကြောင့် ခင်ပွန်းသည်ကို စောင့်ရှိသလောက်ပဲ ခြေဆန့်ခွင့်ပေးပါ။ ဒီမှုကို အမြဲဂရုစိုက်နေပါ။

ပူဆာသမျှကို ခင်ပွန်းကဆောင်ရွက်ပေးရင်လည်း ကျေးဇူးတင်ဖို့ မမေ့နဲ့အုံး။ အမျိုးသားကတော့ ရှုရီအသ်ဘောင်အတွင်းကနေ ဇနီးပူဆာသမျှဆောင်ရွက်ပေးတယ်။ ပူဆာသမျှ ဝယ်ပေးတယ်။ ဒါပေမယ့်လည်း ဇနီးရဲ့နှုတ်ကနေ ခင်ပွန်းသည်အတွက် ကျေးဇူးတင်စကားလေး တစ်ခွန်းတောင် မထွက်တာလည်းရှိပါတယ်။ ဘာလို့မထွက်တာလဲ။..

အလွှာဟ်အရှင်မြတ်ပဲ သိတော်မူလိမ့်မယ်။ ဒီအမှားတွေဟာ အပေါ်ယံ တော့ သေးသေးမွှားမွှားလေးတွေလို့ ထင်ရပေမယ့် အချစ်တွေပြိုလဲစေ မယ့် နျူကလီးယားတွေပဲ။ ခင်ပွန်းသည်က လက်ဆောင်တွေ ဝယ်လာ မယ်။ အသီးအနှံတွေ ဝယ်လာမယ်။ ဇနီးအတွက် သီးသန့်တစ်ခုခုယူ လာတဲ့အခါ ဇနီးက ဒါတွေဘက်ကို ဂရုမစိုက်ပေးဘဲ၊ ကောင်းပြီ ထား လိုက်လို့ အေးတိအေးစက်နဲ့ပြောလိုက်မယ်။ ဒီလို ဟန်အမူအရာတွေ ဟာ အမျိုးသားရဲ့ နှလုံးသားမှာ ဒဏ်ရာတွေဖြစ်စေနိုင်တယ်။

ခင်ပွန်းယူလာတဲ့လက်ဆောင်ကို အရေးတယူနဲ့ လက်ခံပေးပါ။ ပျော်ရွှင်ကြောင်း ထုတ်ဖော်ပြသပါ။ ဒါမှ နောက်တစ်ကြိမ် ဒီထက် ကောင်းတဲ့ လက်ဆောင်တွေထိုက်တန်စွာ ရရှိမှာပေါ့။

**အငိုမျက်လုံး အပြုံးမျက်နှာ**

အမျိုးသားအိမ်လာရင် အငိုမျက်လုံးတွေနဲ့ မကြိုဆိုပါနဲ့။ အရင် ဆုံး စကားစမြည်ပြောကြည့်ပါ။ အပြင်မှာ အခြေအနေကောင်းခဲ့ရဲ့ လား၊ ပျော်ရွှင်စွာနဲ့လာခဲ့တာလဲ။ တစ်ခုခုကြောင့် စိတ်ပျက်နေလား။ စ တာလေးတွေကို ဂရုစိုက်မေးရမယ်။ ဒါတွေကို မဆောင်ရွက်သေးဘဲ ခင်ပွန်းကို မြင်မြင်ချင်းပဲ ငိုချလိုက်မယ်။ ယောက္ခမရဲ့ နှိပ်ကွပ်မှုတွေ၊ ယောင်းမတွေရဲ့ ပညာပေးမှုတွေကို ရေရွတ်ပြနေမယ်။ “ရှင် ကျွန်မကို ဘယ် ဒုက္ခထဲမှာ ထည့်ခဲ့လိုက်တာလဲ။” စတဲ့ အနိဋ္ဌာရုံတွေနဲ့ကြိုဆိုနေ မယ်ဆိုရင် ဘယ်ကောင်းမလဲ။

ပြင်ပမှာ ခင်ပွန်းသည်ကြုံခဲ့ရတဲ့ စီးပွားရေးအခြေအနေတွေ၊ လူမှု ရေးအခြေအနေတွေဟာ ကောင်းခဲ့လား၊ တစ်ဦးတစ်ယောက်က စိတ်

အနှောက်အယှက်ဖြစ်စေလိုက်လား စတာတွေကို အရင်းဆုံးမေးမြန်း စုံစမ်းရမယ်။ ခင်ပွန်းပျော်စေမယ့် အပြုအမူလေးတွေနဲ့ အရင်ဆုံး အမောပြေအောင်လုပ်ပြီးမှ ကိုယ်ပြောချင်တာလေးတွေကို စနစ်တကျ ပြောပြရမယ်။

အခြေအနေနဲ့အချိန်အခါကြည့်ပြီး ပြောဆိုတဲ့ စကားလုံးတွေဟာ ပုလဲလုံးလေးတွေလိုပဲ။ အခြေအနေမကြည့်ဘဲ ပြောချလိုက်တဲ့ စကား တွေကတော့ ပြဿနာရဲ့ မီးစတွေလိုပါပဲ။

**အချစ်နှောင်ကြိုး**

ခင်ပွန်းသည် ဒေါသထွက်နေရင် ဇနီးက နူးညံ့စွာတုံ့ပြန်ပါ။ ဒီလို စိတ္တဗေဒတွေကိုတော့ ဇနီးတိုင်း နားလည်ထားသင့်ပါတယ်။ ကြိုးစ တစ်ဖက်ကို တစ်ဦးက တင်းတင်းဆွဲနေချိန်မှာ အခြားတစ်ဦးက လျှော့ ချပေးလိုက်မယ်ဆိုရင် ဒီကြိုးဟာ ဘယ်တော့မှပြတ်တောက်မှာ မဟုတ် ပါဘူး။ နှစ်ဖက်လုံးက မလျှော့ဘဲ တင်းနေရင်တော့ ကြိုးက ပြတ် တောက်သွားမှာ အသေအချာပါပဲ။

ခင်ပွန်းဒေါသထွက်ချိန် ဇနီးကလည်း ဒေါသပြမယ်ဆိုရင်တော့ စစ်ဖြစ်ပြီပေါ့။ ဒါ့ကြောင့် ခင်ပွန်းဒေါသထွက်ရင် ဇနီးက နူးညံ့စွာနေ ပေးလိုက်ပါ။ ခင်ပွန်းပျော်လာအောင် တစ်ခုခုလုပ်ပေးလိုက်ပါ။ အချစ် စကား တစ်ခွန်းလောက်ဆိုလိုက်တာနဲ့ ခင်ပွန်းသည်ဟာ နူးညံ့သွားမှာ သေချာပါတယ်။

**လှတာမကက်ရင် ညစာခက်မယ်**

အသင်မရဲ့ အလှတစ်ခုတည်းနဲ့တော့ ခင်ပွန်းကိုအမြဲပျော်အောင်

လုပ်နိုင်မှာမဟုတ်ဘူး။ အသင်မရဲ့ လိမ္မာပါးနပ်မှုနဲ့ပဲ ခင်ပွန်းဟာ အမြဲပြုံးပျော်နိုင်မှာပါ။ ဒါ့ကြောင့်လည်း သာမန်အလှပိုင်ရှင် အမျိုးသမီးပေါင်းမြောက်မြားစွာဟာ ခင်ပွန်းသည်ရဲ့ ဘုရင်မဖြစ်နေတာကို တွေ့နေရပါတယ်။

ရှေးလူကြီးတွေပြောစမှတ်ပြုကြတယ်။ ခင်ပွန်းရဲ့ကျေနပ်မှုကို ပိုင်ဆိုင်ထားသူကသာ သတို့သမီးအစစ်ဖြစ်ပါတယ်။ သတို့သမီးရဲ့ မျက်နှာကို မင်္ဂလာဆောင်တစ်ရက်ပဲ အထူးကြည့်ကြတာ။ တစ်သက်လုံးကတော့ သူ့ရဲ့ အသိဉာဏ်၊ ပါးနပ်လိမ္မာမှုတွေကိုပဲ ကြည့်ရတာပါ။ အစပိုင်းတော့ ယောက္ခမကလည်း လှတာကိုပဲ မက်တယ်။ သတို့သားကလည်း လှတာကိုပဲ မက်တယ်။ မိဘတွေက ညစာခက်လိမ့်မယ်လို့ နားချရင်လည်း နားမဝင်ဘူး။ သူမှသူဆိုပြီး ဇွတ်တရွတ်လုပ်တယ်။ အပေါ်ယံ ဆေးဆိုးပန်းရိုက်မျက်နှာကို တစ်ကြိမ်ကြည့်ပြီး မိဘတွေကို ဇွတ်ပူဆာမယ်။ အိမ်ရောက်တော့မှပဲ သတို့သမီးရဲ့ အခြေအနေမှန်ဆိုတာ သိနိုင်တာလေ။ နောက်ဆုံး တုံးအ ခြင်းတွေကို အလှနဲ့ ဖုံးထားတာ သိလိုက်ရမှ နှောင်းနောင်တရတာမျိုးတွေလည်းရှိတယ်။

ဒါ့ကြောင့် အသိဉာဏ်ရှိခြင်း၊ နားလည်တတ်ခြင်းဆိုတာတွေဟာ အိမ်သာယာစည်ကားအောင်လုပ်ဖို့ အခြေခံအရည်အချင်းတွေဖြစ်ပါတယ်။

**သန့်စင်ခြင်းနဲ့ စီမံခန့်ခွဲတတ်ပါစေ**

ဇနီးသည်ဟာ မိမိရဲ့ကောင်းမွန်တဲ့ စီစဉ်မှုတွေနဲ့ အိမ်ကို သာယာစည်းကားလာအောင် လုပ်နိုင်ရမယ်။ အသိဉာဏ်ရှိသလောက် အိမ်ထဲ

မှာ အရာရာကို သူ့နေရာနဲ့သူထားတတ်ရမှာဖြစ်တယ်။ ပစ္စည်းတွေကို ဖရိုဖရဲထားတာ၊ ကလေးတွေနဲ့ အိမ်ကို ညစ်ညစ်ပတ်ပတ်ထားတာ၊ ကိုယ်တိုင်လည်း စုတ်စုတ်ပဲ့ပဲ့နေခြင်းတွေဟာ အိမ်ရဲ့သာယာခြင်းတွေကို ပျက်သုဉ်းစေတဲ့ လက်နက်တွေဖြစ်ပါတယ်။

အိမ်သန့်ရှင်းရေးအတွက် အချိန်ထုတ်ရတာကလွဲရင် တခြားအရင်းအနှီးတော့ မလိုပါဘူး။ ဒါ့ကြောင့် ကိုယ်တိုင်ရော သားသမီးတွေရော၊ အိမ်ကိုပါ သန့်သန့်ပြန့်ပြန့်လေးထားလိုက်ပါ။ "သန့်ရှင်းစင်ကြယ်မှုဆိုတာ အီမာန်ရဲ့ တစ်ဝက်" မဟုတ်ဘူးလား။ ရှုရီအသ်ကတောင် သန့်ရှင်းစင်ကြယ်မှုဟာ အီမာန်ရဲ့တစ်ဝက်ဖြစ်တယ်လို့ ပြောနေတယ်။ သန့်ရှင်းမှုကို မနှစ်သက်သင့်ဘူးလား။ လောကမှာရှိတဲ့ လူတွေအနက် သန့်ပြန့်တဲ့အိမ်၊ စင်ကြယ်တဲ့ ရင်သွေးရတနာတွေကို ကျွန်တော် မနှစ်သက်ဘူးလို့ ပြောဆိုသူရှိနိုင်ပါ့မလား။

အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်က သန့်ရှင်းမှုကို နှစ်သက်တဲ့စိတ်တွေဖန်ဆင်းပေးထားတာ။ သန့်ပြန့်စင်ကြယ်နေတဲ့ ပတ်ဝန်းကျင်၊ ကလေးငယ်တွေ၊ ဇနီးမယားတွေဟာ အမြဲတမ်းအမျိုးသားကို ညို့ငင်ဖမ်းစားနိုင်တယ်။

သန့်ပြန့်စင်ကြယ်ဖို့အတွက် တန်ဖိုးကြီးအဝတ်အစားတွေလည်း မလိုအပ်ပါဘူး။ သာမန်ရိုးရှင်းပြီး သန့်ပြန့်နေတဲ့အဝတ်အစား၊ လိုက်ဖက်တဲ့ အဝတ်အစားကို ရိုးရိုးယဉ်ယဉ်ဝတ်စားပြီးတော့လည်း အမျိုးသားကို ဆွဲဆောင်နိုင်ပါတယ်။ ဒါကိုပဲ စီစဉ်မှုကောင်းတယ်လို့ ခေါ်ပါတယ်။ မိမိရဲ့ကောင်းမွန်တဲ့ စီမံခန့်ခွဲမှုတွေနဲ့ အိမ်ရဲ့ပတ်ဝန်းကျင်ကို

တောက်ပြောင်လာအောင်လုပ်ပါ။ အဖိုးနည်းနည်းနဲ့ အရာရာကို ဖူလုံအောင်လုပ်ပြပါ။

စနစ်တကျစီမံခန့်ခွဲမှု မရှိဘူးဆိုရင်တော့ အရမ်းကို စိတ်ပျက်စရာတွေ ဖြစ်မယ်။ မလိုအပ်ဘဲ လျှပ်စစ်မီးတွေလင်းနေရင် မီတာကြေးတွေ အတိုင်းထက်အလွန်ကျမယ်။ ရေပိုက်တွေကနေ ရေတွေကျနေရင်လည်း ရေဖိုးတွေအဆမတန်ကုန်ဦးမယ်။ ပိုလျှံတဲ့အစားအစာတွေကို စနစ်တကျမသိမ်းပြန်ရင်လည်း အားလုံးပျက်စီးသွားမယ်။ ပန်းကန်ခွက်ယောက်တွေကို သေချာမထားရင် အားလုံးကွဲကုန်မယ်။ အစီအစဉ်ညံ့ဖျင်းမှုကြောင့် ပစ္စည်းတွေပျက်စီးတယ်။ ဆုံးရှုံးမှုတွေအရမ်းဖြစ်တယ်။ အရာရာကို သူ့နေရာနဲ့သူထားခြင်း၊ အတိုင်းအတာလေးနဲ့ သုံးစွဲခြင်းဆိုတာတွေဟာ ကောင်းတဲ့ အကျင့်သီလလေးတွေပါ။ ဒါတွေဟာ ငါ့တာဝန်တွေလို့ ဇနီးသည်က မှတ်ယူထားရမယ်။

**မြေဝယ်မကျ အမိန့်နာခံမှု**

အမိန့်နာခံတဲ့ အမျိုးသမီးရဲ့စကားကို ခင်ပွန်းဟာလည်း ပြန်လည်နာခံပေးမယ်။ တချို့အမျိုးသမီးတွေဟာ ခင်ပွန်းသည်ရဲ့(ရှရီအသ်ဘောင်အတွင်းက)ပေးတဲ့အမိန့်တွေကို မြေဝယ်မကျနာခံတော့ ခင်ပွန်းကလည်း သူတို့ကို ပိုပိုပြီးချစ်လာတယ်။ သူတို့ရဲ့ပိုင်တဲ့ တောင်းဆိုချက်တွေကို နာခံဖြည့်ဆည်းပေးတော့တယ်။

အမိန့်နာခံခြင်း၊ ခင်ပွန်းကို ပြုစုယုယခြင်းဆိုတဲ့ အရည်အချင်းတွေဟာချီးကျူးဖွယ်အရည်အချင်းတွေဖြစ်တယ်။ ဒီအချက်တွေကြောင့် ခင်ပွန်းသည်ထံမှာဇနီးသည်ဟာ ဧကရီဖြစ်သွားမယ်။ အမိန့်နာခံခြင်းကို





အပြန်အလှန်အတားဖြစ်စေတာကတော့ မာနတို့၊ အရွဲ့တိုက်ခြင်းတို့ပဲဖြစ်တယ်။ ဇနီးသည်ဟာ တစ်ကမ္ဘာလုံးနဲ့ အရွဲ့တိုက်လိုက်လို့ ဒီလောက်ဆုံးရှုံးမှာမဟုတ်ဘူး။ ခင်ပွန်းကိုသွားပြီး အရွဲ့တိုက်ရင်တော့ ကြီးမားတဲ့ဆုံးရှုံးမှုကြီးနဲ့ ရင်ဆိုင်ရလိမ့်မယ်။ ဒါပေမယ့် အမျိုးသမီးအများစုဟာကိုယ့်ခင်ပွန်းကိုပဲအရွဲ့တိုက်ကြတယ်။ တစ်တမ္ဘာလုံးနဲ့တော့ သဟဇာတဖြစ်အောင်နေနိုင်တယ်။ ခင်ပွန်းကို အရွဲ့တိုက်လိုက်ရတာကိုလည်းကြေညာမောင်းမခတ်မိစေနဲ့ဦး။ ရလဒ်ဆိုးထွက်လာမယ်။

**လူ့အောက်ကျို့လို့မပြီ**

ချိုးနှိမ် ရိုကျိုးမှုကို အလ္လာဟ်အရှင်မြတ်လည်း နှစ်သက်တော်မူတယ်။ ရိုကျိုးမှုမှာ ပြဿနာအပေါင်းကို ဖြေရှင်းပေးနိုင်တဲ့ အစွမ်းသတ္တိလည်းရှိတယ်။

ကိစ္စတစ်ခုခုဟာ မိမိရဲ့ပေါ့လျော့မှုကြောင့် နောက်ကျသွားခဲ့ရင်ချက်ချင်းထလုပ်လိုက်လို့ ဘာဖြစ်သွားမှာလဲ။ တောင်းပန်လိုက်ဖို့ရောဘာအပြန်အတားရှိလို့လဲ။ အမှားဝန်ခံဖို့ရော ဘာကြောင့်ဝန်လေးနေရမှာလဲ။ ဒီလိုမဟုတ်ဘဲ မိမိသာမှန်ကန်ကြောင်းပြောနေမယ်။ မလိုလားအပ်တဲ့ ဖြေရှင်းချက်တွေပေးနေခြင်းဟာ ပြဿနာမီးကို ပိုပြီးတောက်လောင်စေလိမ့်မယ်။

**ခင်ပွန်းရဲ့ဒေါသမီးကို ငြိမ်းပေးပါ**

ဒေါသထွက်နေတဲ့ ခင်ပွန်းသည်ရှေ့မှာ ဘယ်တော့မှ ပဟေဠိဆန်တဲ့သဘောတရားတွေ ချမပြပါနဲ့၊ ပြစ်တင်ရှုတ်ချတာတွေ မလုပ်မိပါစေနဲ့။ ဒီ လုပ်ရပ်တွေဟာ မီးပုံပေါ် ဓါတ်ဆီဖြန်းသလိုပဲ။




ရှိုင်သွာန်လည်း ဒီအကွက်ကိုပဲ ချောင်းနေတာ။ ဒေါသထွက်နေတဲ့ ခင်ပွန်းသည်ကို ပိုပြီးဒေါသထွက်စေမယ်။ နောက်ဆုံး နှုတ်ကနေ သွလားက်တွေ ထွက်လာဖို့ပဲ ရှိုင်သွာန်ဟာ ကြိုးစားမှာ။ ဒါ့ကြောင့် ခင်ပွန်းသည် ဒေါသထွက်လာရင် ဇနီးသည်က တိတ်တိတ်လေးနေပေးလိုက်ပါ။ ပြောမယ်ဆိုရင်လည်း နူးညံ့သိမ်မွေ့စွာပဲပြောပါ။ ဒေါသပြေစေမယ့် စကားလေးတွေကိုသာ ရွေးချယ်ပြီးပြောပါ။ ကြည့်မယ်ဆိုရင်လည်း အမောပြေစေမယ့် အကြည့်မျိုးနဲ့ပဲကြည့်ပါ။

**ရိုတာလေးနဲ့ လှအောင်ဝတ်ပါ**

အဝတ်အစားတွေဝတ်ရင်လည်း ရှရီအသ်ရဲ့ဘောင်အတွင်းကနေ ဆွဲဆောင်မှုရှိတာတွေကိုဝတ်ဆင်ပါ။ ဆွဲဆောင်မှုရှိဖို့ဆိုတာ အထက်၊ အောက် ဗလာဖြစ်နေတာကို ဆိုလိုတာမဟုတ်ပါဘူး။ ပိုသီပတ်သီ အဝတ်အစားတွေ လျပ်ပေါ်လော်လီ အဝတ်တွေဝတ်တာ၊ ခင်ပွန်းသည် အာရုံမစိုက်လိုတဲ့ အဝတ်မျိုးတွေဝတ်တာကို ရှောင်ပါ။ တချို့ ဇနီးကောင်း ဇနီးမြတ်တွေဟာ ရိုးသားခြင်းဆိုတဲ့ ခေါင်းစဉ်အောက်မှာ မိမိဝတ်ဆင်တဲ့ အဝတ်တွေကို လုံးဝအာရုံမထားတော့ဘူး။ ဖြစ်သလိုပဲ ဝတ်ဆင်လိုက်ကြတယ်။ ဒီလိုလုပ်လို့မရပါဘူး။ ခင်ပွန်းသည်ဟာ ဇနီးကို ဆွဲဆောင်မှုအပြည့်ရှိနေတဲ့ ပုံစံနဲ့ပဲမြင်လိုပါတယ်။ အိမ်သူမက ဆွဲဆောင်မှုမရှိရင်တော့ အပြင်မှာ ဆေးဆိုးပန်းရိုက် စိတ်ညို့ရှင်တွေ အများကြီးကို မြင်တတ်လာလိမ့်မယ်။ အိမ်သူမရဲ့အပြစ်ကြောင့် ပြင်ပကိုစိတ်ရောက်နေတဲ့ ခင်ပွန်းကို အိမ်ထဲပြန်စိတ်ရောက်အောင် သပ်ယပ်လှပစွာနဲ့ ပြန်မဆွဲဆောင်နိုင်ဘူးလား။ အဝတ်အစားဝတ်ရင်

ထုံးတမ်းစဉ်လာတွေ၊ ရိုးရာတွေထက် ငါနဲ့လိုက်ဖက်မှုရောရှိရဲ့လား၊ငါ့ ခင်ပွန်းကိုရော ဆွဲဆောင်နိုင်ပါ့မလားဆိုတဲ့ အတွေးနဲ့ဝတ်ပါ။ တချို့ အမျိုးသမီးတွေက သူတို့မျက်နှာပေါ်မှာရှိတဲ့ သက္ကဝါရဲ့ နူးရဲ၊ သူတို့ရဲ့ အပြစ်မဲ့တဲ့ပုံပန်းသဏ္ဌာန်တွေကြောင့် ဝတ်လို့လှကြတာ မဟုတ်ဘဲ။ သူတို့ဝတ်လိုက်လို့ အဝတ်အစားတွေပါ လှသွားတာလည်း ရှိတယ်ဗျာ။ ဝတ်လို့လှတာ မဟုတ်ဘူး။ လှလို့ဝတ်တာဆိုတဲ့ သဘောမျိုးပေ့ါ။ ဒါ့ကြောင့်ဇနီးသည်ဟာ သူ့ရဲ့အပြစ်မဲ့တဲ့ နှလုံးသားပုံရိပ်တွေနဲ့ ခင်ပွန်းရဲ့ နှလုံးသားရင်ပြင်မှာ အောင်လံစိုက်ထူပါ။ အပြစ်မဲ့တဲ့ နှလုံးပိုင်ရှင်ကို ခင်ပွန်းဟာလည်း အလိုလိုချစ်လာမယ်။ ကိုယ့်ဇနီးကို အမြဲတမ်းမျက်စိပသာဒအဖြစ်နဲ့ မျက်လုံးအိမ်၊ နှလုံးအိမ်ထဲမှာ ထည့်ထားလိမ့်မယ်။

**နှလုံးသားချင်း ရောင်ပြန်ဟပ်**

အကျင့်ယုတ်တဲ့အမျိုးသမီး၊ အလွဲသုံးစားလုပ်တဲ့ဇနီး၊ မုသားပြောတဲ့ အိမ်သူမ၊ လှည့်ဖြားတတ်တဲ့ အိမ်ရှင်မ၊ ခင်ပွန်းကို အမှားလမ်းညွှန်တတ်တဲ့ ဘဝကြင်ဖော်ဟာ အမြဲတမ်းအိမ်ကိုဖျက်ဆီးလေ့ရှိတယ်။ ခင်ပွန်းသည်ကို ဘယ်တော့မှ လိမ်မပြောမိစေနဲ့။ ခဏလေးတွေ့ဆုံရသူရှေ့မှာမုသားပြောမိသွားတာက သိပ်ဆုံးရှုံးမှာ မဟုတ်ဘူး။ ၂၄ နာရီလုံးလုံးအတူနေရမယ့် နိစ္စဓူဝ မျက်နှာမြင်နေရမယ့် ခင်ပွန်းသည်ရှေ့မှာ မုသားပြောမိသွားရင်တော့ ဘဝရှုံးပြီလို့သာမှတ်။ ဘယ်လောက်ပဲ ပိရိအောင်ပြောတဲ့မုသားဖြစ်ပါစေ တနေ့နေ့ တချိန်ချိန် ပေါ်စမြဲပါပဲ။ ခင်ပွန်းသည်ထံမှာ လူလိမ်လို့သတ်မှတ်ခံရတဲ့ ဇနီးရဲ့ အဆင့်ဟာလည်း ကျသွားမယ်။ ဒါ့ကြောင့် မုသားပြောခြင်း၊ ခင်ပွန်းသည်ကို မကောင်း

ကြံစည်ခြင်းတို့ဟာ ဇနီးရဲ့ အမှားတွေထဲက အကြီးမားဆုံးအမှားတွေ ဖြစ်ပါတယ်။

အိမ်ရှင်မရဲ့ နှလုံးသား၊ စေတနာတွေ ခင်ပွန်းသည်အတွက် ဘယ်လောက်ကောင်းနေမလဲ။ ခင်ပွန်းရဲ့ နှလုံးသားမှာ ရောင်ပြန်ဟပ် နေလိမ့်မယ်။ အိမ်ရှင်မရဲ့ နှလုံးသားမှာ ခင်ပွန်းရဲ့အချစ်ဘယ်လောက် စစ်မလဲ အဲ့ဒီလောက်ခင်ပွန်းသည်ရဲ့ အချစ်ကိုတွေ့ရလိမ့်မယ်။

ဘုရင်တစ်ပါးဟာ မိမိရဲ့အကြံပေးဝန်ကြီးနဲ့ သွားလာနေစဉ်မှာ "နှလုံးသားချင်း ရောင်ပြန်ဟပ်တယ်" ဆိုတဲ့ သဘောကဘာလဲလို့ မေး လိုက်တယ်။ ဝန်ကြီးကလည်း အရမ်းအမျှော်အမြင်ကြီးသူဖြစ်တယ်။ ဒါ့ကြောင့်ပြောတယ်။ "အို-ရေမြေသနင်းပြည့်ရှင်မင်း၊ ကျွန်တော် ဒီ မေးခွန်းရဲ့အဖြေကို လက်တွေ့ပြပါရစေ။ တစ်ရက် ဘုရင်ကြီး နန်းဝတ် နန်းစားတွေချွတ် သာမန်အရပ်သား အဝတ်အစားဆင်ပြီး ကျွန်တော်နဲ့ အတူအပြင်ထွက်ကြည့်ပါ။"

ဒီတော့ တစ်နေ့မှာ ဘုရင်ကြီးကလည်း မိမိရဲ့သရဖူတွေ၊ နန်းဝတ် နန်းစားတွေချွတ်ပြီး သာမန်အဝတ်အစားမျိုးဝတ်ပြီးတော့ အပြင်ကို ထွက်လာတယ်။ လူတစ်ယောက်ဟာ ဘုရင်ကြီးတို့ရှေ့ကနေ ဘာကိုမှ ဂရုမစိုက်တဲ့ ပုံစံမျိုးနဲ့လာနေတယ်။ ဝန်ကြီးက ဘုရင်ကိုမေးတယ်။ "အို-ဘုရင်ကြီး၊ ဒီလူ့ကို ဘယ်လိုသဘောရလဲ။" ဘုရင်ကြီးက ချက် ချင်းအဖြေပေးတယ်။ "ဘယ်လို ငတုံးမှန်း မသိပါဘူးကွာ၊ ဘာစည်း ကမ်းမှလည်း မရှိဘူး၊" ကောင်းပြီ၊ ဝန်ကြီးဟာ ထိုလူနားကိုသွား လိုက်တယ်။ စလာမ်ပေးတယ်။ ပြီးတော့မေးတယ်။ "မောင်မင်းပြော




စမ်းကွာ၊ ဒီနေ့အုပ်ချုပ်နေတဲ့ ဘုရင်ကို မင်းဘယ်လိုမြင်လဲ" ဟိုလူက လည်း မဆိုင်းမတွ ဖြေချလိုက်ပုံက "ဘယ်လိုငတုံးမှန်း မသိပါဘူးဗျာ၊ မအုပ်ချုပ်တတ်ဘူး၊ ဘုရင်ကို မဖြစ်ထိုက်တာ။" သူကလည်း စိတ်ထဲ လာသလိုပဲ မှတ်ချက်ပေးလိုက်တယ်။ ရှေ့ဆက်သွားတယ်။ ဝန်ကြီးဟာ အခြား လူငယ်လေးတစ်ယောက်ကို မြင်သွားတယ်။ ဘုရင်ကြီးကို မေးတယ်။ ဒီလူငယ်လေးကို ဘယ်လိုမြင်လဲ။ "စာတတ်ပေတတ်၊ လိမ္မာ ရေးခြားရှိတဲ့ကလေးလို့ မြင်တာပဲ။" ဝန်ကြီးကပြောတယ်။ ဒါဆို ကျွန်တော်တို့သူ့ကိုလည်း အင်တာဗျူးကြည့်ကြစို့။ "ငါတို့ဘုရင်မင်း မြတ်ကြီး ဘယ်လိုလဲ"လို့ ဝန်ကြီးကမေးလိုက်တယ်။ လူငယ်လေးက ဖြေတယ် "အရမ်းကို အမျှော်အမြင်ကြီးသူဖြစ်တယ်။ ပြည်သူ လူထုကို လည်း ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာစွာထားတယ်ဗျာ၊ ကျွန်တော် တို့ဟာ ဒီလိုဘုရင်မင်းမြတ်ကြီးရဲ့ လက်အောက်မှာနေရလို့ တကယ်ပဲ ကံကောင်းသူတွေ ဖြစ်ကြပါတယ်။"လို့ဖြေလိုက်တယ်။

ဝန်ကြီးက ဘုရင်ကြီးကို လျှောက်တယ်။ ကြည့်လိုက်ပါ။ ရှေ့လူနဲ့ ပတ်သက်ပြီး ဘုရင်ကြီး ဘယ်လိုတွေးမြင်လဲ။ သူကလည်း ဘုရင်ကြီး ကို ဒီလိုပဲမြင်မယ်။ ဒါကိုပဲ နှလုံးသားကို နှလုံးသားက သိမြင်တယ်လို့ ခေါ်တာပါ။

လူကြီးမင်းရဲ့ စိတ်ထဲမှာ တခြားသူရဲ့ အချစ်တွေနဲ့ပြည့်နက်နေရင် သူ့နှလုံးသားဟာလည်း လူကြီးမင်းရဲ့ အချစ်တွေနဲ့ပြည့်နေလိမ့်မယ်။ နှလုံးသားရဲ့ဒီ massage ဟာ automatic ရောက်သွားမယ်။ တခြား သူရဲ့ နှလုံးသားကလည်း ဒီ massage ကို automatic recieve

လုပ်လိုက်လိမ့်မယ်။

**ခင်ပွန်းအပြစ်ကို အချစ်နဲ့ ဖုံးပေးပါ**

ဒါ့ကြောင့် ဇနီးဟာ ခင်ပွန်းကို ချစ်နေရမယ်။ ခင်ပွန်းသည်ဟာ ခြေချော်လက်ချော်ဖြစ်နေမယ်၊ မကောင်းတာတွေလုပ်မိနေမယ်ဆိုရင်လည်း အသင်မရဲ့ ခင်ပွန်းပဲမဟုတ်လား။ အချစ်နဲ့ပဲသူ့ကို ကုစားလိုက်ပါ။ အသင်မရဲ့ ဘဝကြင်ဖော်ကို သူ့ရဲ့ မကောင်းတဲ့သူငယ်ချင်းတွေ၊ ပတ်ဝန်းကျင်တွေက ဖျက်ဆီးလိုက်တာမျိုးလည်း ဖြစ်တတ်ပါတယ်။ အသင်မရဲ့အချစ်ဟာ သူ့ကိုကောင်းမှုဘက်ကို ဆွဲခေါ်လာမှာသေချာပါတယ်။ အသင်မက ငြူစူနေမယ်ဆိုရင်တော့ သူဟာ ပိုပျက်စီးသွားလိမ့်မယ်နော်။ အပြစ်တွေကျူးလွန်တာကို သိပါလျက်ခွင့်လွှတ်ပေးခြင်းဟာ အလ္လာဟ်အရှင်မြတ်ရဲ့ ဂုဏ်တော်တစ်ခုလည်းဖြစ်ပါတယ်။ဟဒီးဆ်တော် တစ်ပုဒ်မှာလာရှိတယ်။ "تخلقوا بأخلاق الله" "အသင်တို့ဟာမိမိတို့ကိုယ်ကို အရှင်မြတ်ရဲ့ဂုဏ်တော်တွေနဲ့ဆင်ယင်ခြယ်သကြကုန်။"

**အပြင်မှာ လျှောက်မလည်နဲ့**

နောက်ထပ်ပြဿနာမီးမွှေးတဲ့ အချက်တစ်ခုကတော့ ဇနီးသည်ဟာ အကြောင်းမဲ့အပြင်ထွက်ပြီး လျှောက်သွားနေတာပဲ။ အများသောအားဖြင့် ကလေးတွေဟာ မိဘအိမ်မှာတည်းက အပြင်လျှောက်လည်တဲ့ အကျင့်တွေဖြစ်နေခဲ့ကြတယ်။ အပြင်ကို အကြောင်းမဲ့ထွက်လည်တာတွေဟာ အိမ်ထောင်ရေးကို အရမ်းထိခိုက်စေပါတယ်။ ဘာကြောင့်လည်းဆိုတော့ အမျိုးသမီးအပြင်ကို ထွက်တာနဲ့ ရှိုင်သွာန်က




မကောင်းတဲ့မျက်စိတွေနဲ့ ချောင်းမြောင်းသူတွေကို လွှတ်ပေးလိုက်တယ်။ အခုဒုက္ခနှစ်ခုဖြစ်လာမယ်။ ပြင်ပမှာ နေထိုင်နေတဲ့သူတွေက ဒီအမျိုးသမီးကို မြင်မယ်။ နှစ်သက်သွားမယ်။ သူ့ဆီ massage တွေပို့မယ်။ မဆီမဆိုင်ဒုက္ခတွေလိုက်ပေးမယ်။ နောက်ဆုံး အိမ်ထောင်ရေးတွေ ပြိုကွဲတာပဲ အဖတ်တင်မယ်။ အမျိုးသားကလည်း အပြင်မှာမြင်တာတွေကို ဇနီးသည်ထက် ပိုစွဲလမ်းနေမယ်ဆိုရင် ပြဿနာပဲ။ ဇနီးမောင်နှံနှစ်ဦးဟာ အပြင်မှာပဲ လျှောက်ထွက်လည်နေခြင်းဟာ ဥရောပရဲ့ စရိုက်ဆိုးဖြစ်ပါတယ်။ ဒီလိုကိစ္စတွေရဲ့ နိဂုံးမှာတော့ မကောင်းတာတွေပဲ တွေ့ရတယ်။ အမျိုးသမီးတွေဟာ မိမိခင်ပွန်းနဲ့အတူ အပြင်ကိုသွားချင်တယ်ဆိုရင် လူအများမစည်ကားတဲ့ ပန်းခြံတွေ၊ အပန်းဖြေတဲ့နေရာတွေကို ရွေးချယ်သင့်ပါတယ်။ အမြဲတမ်းအပြင်မှာ ထမင်းထွက်စားတာ၊ အကင်၊ အကြော်ထွက်စားတာမျိုးတွေဟာ အိမ်ရဲ့အစီအစဉ်တွေကို ဖျက်လိုဖျက်ဆီးလုပ်ရာကျပါတယ်။ ရှိုင်သွာန်က ဇနီးမောင်နှံနှစ်ဦးအနက် တစ်ဦးဦးကို ဂိုနာထောင်ချောက်မှာမိစေဖို့ အောင်မြင်သွားလိမ့်မယ်။ ဒါ့ကြောင့် လူအများစည်ကားတဲ့ နေရာတွေမှာ လှည့်ပတ်သွားလာခြင်းဟာ အများအားဖြင့် ပြဿနာတွေကို သယ်ဆောင်လာနိုင်ပါတယ်။

ပြဿနာကင်းတဲ့ အိမ်ထောင်ရေးတစ်ခုတည်ထောင်ဖို့အတွက် မီးဖိုသေးသေးနဲ့ လက်ရာစေတနာကောင်းတဲ့ အိမ်ရှင်မရဲ့ နွေးထွေးတဲ့ မေတ္တာတွေဟာ လုံလောက်ပါတယ်။ အိမ်မှာရှိတာလေးနဲ့ ကောင်းအောင်ချက်၊ ရတာလေးနဲ့ လှအောင်ဆင်ရင် ခင်ပွန်းဟာလည်း အပြင်

ကို ထွက်ဖို့ စိတ်ဝင်စားတော့မှာ မဟုတ်တော့ပါဘူး။

**ကာမဂုဏ်အာရုံကို ချုပ်ထည်းပေးပါ**

တစ်ခါတရံ ခင်ပွန်းသည်က အမျိုးသမီးနဲ့ နှစ်ကိုယ်တည်း လွတ်လပ်စွာနဲ့ တွေ့ဆုံလိုတယ်။ ဇနီးက ဟိုလှည့်ဒီလှည့်နေပြီး ရှောင်ကွင်းနေခြင်းဟာလည်း ပြဿနာတံခါးကို ဖွင့်လိုက်သလိုပါပဲ။ ခင်ပွန်းဒေါသထွက်နေရင် အသိနဲ့သတိတွဲညှိထားပြီး ဆက်ဆံပါ။ ခင်ပွန်းက ဆန္ဒရမ္မက်ဖြစ်ပေါ်နေရင်လည်း ကိုယ်က အကောင်းဆုံးပုံစံနဲ့ လိုက်လျောပေးပါ။ ဘယ်လိုမဆိုသူ့ရဲ့ထကြွနေတဲ့ ကာမဂုဏ်အာရုံတွေကို လျှော့ချပေးဖို့ ဇနီးက ကြိုးစားပေးရမယ်။

ရှုရီအသ်က ဘယ်လောက်ထိ မိန့်ထားလဲဆိုတော့ “ဇနီးသည်ဟာ ခရီးသွားဖို့ အစီးအနင်းပေါ် ထိုင်နေစဉ် အမျိုးသားက မိမိရဲ့ ကာမဂုဏ်အာရုံကို လျှော့ချပေးဖို့ တောင်းဆိုလာရင် ဇနီးသည်ဟာ လက်ခံလိုက်နာပေးရမယ်။ ပြီးမှသာ ကိုယ်ရဲ့လိုရာခရီးကို ဆက်ရမယ်။” ရှုရီအသ်တရားတော်မြတ်က ဘယ်လောက်တောင်ကောင်းတဲ့ ရွှေရောင်ဥပဒေလေးတွေ ပြဋ္ဌာန်းထားပါသလဲ။

ဝမ်းနည်းဖို့ကောင်းတာက ယနေ့ခေတ်အိမ်ရှင်မတွေက ခင်ပွန်းနဲ့ နှစ်ဦးတည်း ကုတင်ပေါ်မှာရှိနေချိန်တောင်မှ ရှက်ပြလို့မပြီးနိုင်၊ အကြောင်းပြချက်တွေပေးလို့ မကုန်နိုင်အောင်ဖြစ်နေတယ်။

**အဆိုးမြင်ဝါဒ ရှောင်ကြဉ်ကြ**

နောက်ထပ်ပြဿနာမီးမွှေးပေးတဲ့ အချက်တစ်ခုကတော့. . . ခင်ပွန်းသည်ဟာ ရံဖန်ရံခါ အလုပ်ကြောင့်၊ ရုံးကြောင့်၊ သာသနာ့ကိစ္စတစ်




ခုခုကြောင့် (သို့) သူငယ်ချင်းတွေကြောင့် အိမ်ပြန်နောက်ကျသွားရင် မစုံစမ်းဘဲ အပြင်မှာရှုတ်နေလားမသိဘူးလို့ သံသယဖြစ်မိသွားတာပဲ။ ဒီသံသယဟာ ဆုံးရှုံးမှုအကြီးကြီးတွေကို ဖန်တီးပစ်နိုင်တယ်။ ခင်ပွန်း မကျူးလွန်ထားတဲ့ ကိစ္စတစ်ခုကို ကျူးလွန်ပါတယ်လို့ ဇနီးသည်က စွပ်စွဲပြောဆိုရင် ခင်ပွန်းဟာ အမျိုးသားတစ်ဦးဖြစ်တဲ့အလျောက် မှားယွင်းစွာ တုံ့ပြန်နိုင်တယ်။ ခင်ပွန်းက အသင်မကို တခြားသူနဲ့ မဟုတ်မဟပ် စွပ်စွဲပြောဆိုရင်ရော အသင်မ ခံနိုင်ပါ့မလား။

နောက်ကျပြန်လာရတဲ့ အကြောင်းအမျိုးမျိုးရှိနိုင်ပါတယ်။ တခါတလေ အိမ်အတွက် သောကဆိုက်နေလို့ ဗလီမှာထိုင်ပြီးစဉ်းစားရင်း ကြာသွားတာမျိုးလည်းဖြစ်နိုင်ပါတယ်။ ဘယ်လိုမဆို အိမ်အပြန်နောက်ကျမှုတိုင်းအတွက် တသားမတ်တည်း အဖြေထုတ်လို့ကတော့ မဖြစ်နိုင်ဘူး။ အိမ်ပြန်နောက်ကျနေတာ တစ်ခုခုတော့တစ်ခုခုပဲလို့ ထင်မြင်ခြင်းဟာ မှားယွင်းပါတယ်။ ဒီလိုအဆိုးမြင်ဝါဒဟာ ဇနီးမောင်နှံ နှစ်ဦးကြား အမုန်းတွေကို မွေးဖွားပေးပါတယ်။ ဒါ့ကြောင့် ခိုင်မာတဲ့သတင်းမရှိဘဲ အထောက်အထားမဲ့ ခင်ပွန်းပေါ် သံသယမဖြစ်ပါနဲ့။ နောက်ကျလာတဲ့ ခင်ပွန်းကို အချစ်နဲ့ကမ်းလင့်ကြိုဆိုလိုက်ပါ။ ဒါမှသူဟာ အပြင်ကထက်အိမ်မှာ နွေးထွေးတဲ့မေတ္တာတွေကို ခံစားတတ်လာမှာပါ။

**ခင်ပွန်းနှလုံးသားအား အချစ်စည်းရိုးခတ်ထား**

အသင်မက အိမ်မှုကိစ္စတွေမဆောင်ရွက်ဘူး။ ခင်ပွန်းဝတ္တရားတွေ မကျေပွန်ဘူး။ နာရှုံသာလုပ်မထားဘူး။ အရွဲ့တိုက်နေလိုက်တယ်။ ရုံးသွားဖို့ အကျႌတွေ အဆင်သင့်လုပ်ပေးမထားဘူး။ ဒီလိုနဲ့ ခင်ပွန်း





လည်း အဆင်ပြေသလိုလုပ်ပြီး စိတ်မကောင်းစွာနဲ့ ရုံးသွားလိုက်မယ်။ ရုံးမှာ သောကအပူခတဲ့ မျက်နှာနဲ့ စိတ်ပျက်လက်ပျက်ထိုင်နေတာကို ကြည့်ပြီး ပရိဒါမဲ့အမျိုးသမီးတစ်ဦးက မေတ္တာအပြည့်နဲ့ "ဆရာ့ကြည့်ရတာ မျက်နှာမသာပါလား၊ အမြဲပွင့်လန်းနေတဲ့ဆရာ့မျက်နှာ ဒီနေ့ ညှိုးနွမ်းနေပါလား"... လို့ မေးလိုက်ရင်တော့ အသင်မရဲ့ခင်ပွန်းက အရည်ပျော်သွားလိမ့်မယ်။ ဟိုအမျိုးသမီးဘက်ကို စိတ်အာရုံတွေ ရောက်ရှိသွားလိမ့်မယ်။ ရုံးတွင်း ဇာတ်လမ်းတွေ ဖြစ်သွားနိုင်တယ်။

ဒါ့ကြောင့်အလ္လာဟ်အရှင်မြတ်က ကျမ်းတော်မြတ်ကုရ်အာန်မှာ "ဇနီးမယားတွေထံကနေ အသင်တို့စိတ်တည်ငြိမ်မှုတွေ ကိုယ်စိတ်နှစ်ဖြာချမ်းသာမှုတွေ ရယူနိုင်ပါစေ"လို့ မိန့်ကြားထားတာပါ။ အိမ်ကနေ ခင်ပွန်းကို စိတ်ရှုပ်ထွေးမှုတွေပေးလိုက်တော့ အခြေခံအမှားကြီးကို အသင်မက ကျူးလွန်လိုက်ပြီပေါ့။ ခင်ပွန်းက စိတ်ပျက်လက်ပျက် ဖြစ်နေရင် သူ့ကိုစိတ်ပျော်အောင်လုပ်ပေးပါ။ တစ်ယောက်နဲ့ တစ်ယောက် စိတ်ကောက်ပြီး အိပ်သွားတာမျိုးမလုပ်ရဘူး။ အချင်းချင်း တောင်းပန်မှုမပြုဘဲ၊ နားလည်မှုမရယူဘဲ၊ ခွင့်လွှတ်မှုမရသေးဘဲ မအိပ်လိုက်ပါနဲ့။ ဒေါသကြောင့် ဇနီးမောင်နှံနှစ်ဦးဟာ ၃ နဲ့ ၄ လိုဖြစ်နေရင် "ငါတို့နှစ်ဦးဟာ လောကဓံကို အေးတူပူအမျှနဲ့ရင် ဆိုင်ဖို့ဆုံးဖြတ်ထားပြီးသားပဲ။" လို့ တွေးပြီး အလျှော့ပေးလိုက်ပါ။

ခင်ပွန်းဒေါသထွက်နေတာကို ဖြေဖျောက်ပေးဖို့ မကြိုးစားဘဲ ခေါင်းမာနေတဲ့ အမျိုးသမီးမျိုးဟာ ခင်ပွန်းရှိလျက် မုဆိုးမဖြစ်နေရသလိုဖြစ်နေပါတယ်။





**ခင်ပွန်းအမှားအတွက် ကြေညာမောင်းခတ်သူများ**

ပြဿနာရဲ့အရင်းခံတွေထဲမှာ ခင်ပွန်းရဲ့ အမှားတွေကို လူပုံလယ်မှာ ကြေညာမောင်းခတ်တာလည်းပါတယ်။ မိခင်ကိုလည်း ဖုန်းဆက်ပြီး အကြောင်းကြားတယ်။ "အမေက သမီးကို ဘယ်အညှိုးကြောင့် ဒီဒုက္ခထဲထည့်လိုက်တာလဲ"သူငယ်ချင်းတွေကိုလည်း ဖုန်းဆက်ပြီး ရင်ဖွင့်မယ်။ "ငါ့ဘဝတော့ ဆုံးရလေပြီ၊ ဘယ်လိုဒုက္ခမျိုးနဲ့ ကြုံနေရမှန်းကို မသိတော့ဘူး"။ သားသမီးတွေရှေ့မှာလည်း ဖခင် မကောင်းကြောင်း ရေရွတ်နေမယ်။ ခင်ပွန်းကို ရှေ့ထားပြီးလည်း သူ့ရဲ့မကောင်းကြောင်းတွေကို ပြောနေမယ်။ သူ့မကောင်းကြောင်းတွေကို ဒီလောက်ကြေညာမောင်းခတ်နေမှတော့ သူ့ထံမှာ အသင်မဟာဘယ်လိုလုပ်ပြီး နှစ်လိုဖွယ်ကောင်းတော့မလဲ။ ဒီလုပ်ရပ်ဟာ ကြေညာမောင်းခတ်ပြီး ကိုယ့်ပေါင်ကို လှန်ထောင်းသလိုပါပဲ။

မှတ်ထားလိုက်ပါ။ အမြဲကိုယ့်ခင်ပွန်းကို အခြားသူတွေရဲ့ ရှေ့မှာ ဂုဏ်သရေရှိသူဖြစ်ကြောင်း မှတ်ချက်ပေးပါ။ ခင်ပွန်းသည်က အသင်မကိုဒုက္ခပေးနေရင်လည်း အသင်မက ကိုယ့်ခင်ပွန်းရဲ့ ကောင်းကြောင်းလေးတွေ၊ ဂုဏ်မြင့်မားစေမယ့်စကားတွေကိုပဲ တပါးသူရှေ့မှာ ရွေးပြောပါ။ ဒါတွေဟာ အိမ်ကိုသာယာစေဖို့ အရမ်းအရေးကြီးပါတယ်။

**ရွေးရခက်အောင် မလုပ်နဲ့**

ပြဿနာရဲ့ နောက်ထပ်ဇစ်မြစ်တစ်ခုကတော့။ ဇနီးသည်ဟာ ခင်ပွန်းကို ဘေးကြပ်နံကြပ်ဖြစ်အောင်၊ ရွေးချယ်ရခက်အောင်လုပ်လိုက်တာမျိုးဖြစ်တယ်။ ဇနီးနဲ့မိခင်ဘယ်သူ့ကိုရွေးရမလဲဆိုတဲ့ အခြေအနေ

မျိုးရောက်အောင် တွန်းပို့တာရှိတယ်။(သို့) အသင်မနဲ့ မောင်နှမသား ချင်းတွေကို ယှဉ်ရွေးရတာမျိုးထိဖြစ်လာနိုင်တယ်။ ဘာကြောင့်ဒီလိုတွေ ယောက္ခမ၊ ယောင်းမ လွန်ဆွဲပွဲတွေဖြစ်အောင် ဖန်တီးမှာလဲ။ အသင်မ လက်ထပ်ထားသူက အမေတစ်ခုသားတစ်ခုဆိုရင်လည်း သူ့အမေနဲ့ သဟဇာတဖြစ်အောင်နေမှပေါ့။ အသင်မတို့ ဇနီးမောင်နှံအဆင်ပြေနေ ရင် ယောက္ခမလည်း ဒုက္ခပေးနိုင်မှာမဟုတ်ဘူး။

**ခင်ပွန်းရဲ့လုပ်ရပ်ကို ချီးကျူးပေးပါ**

တချို့အမျိုးသမီးတွေဟာ ခင်ပွန်းဘက်ကဘယ်လောက်ပဲကောင်း တာလုပ်ပြပါစေ၊ ချီးကျူးဖို့ဝန်လေးကြတယ်။ ဒီလိုပါးစပ်သော့ခပ်ခံရ ခြင်းဟာလည်း အဇားဗ်တစ်မျိုးလို့မှတ်ယူသင့်တယ်။

တချို့ကျတော့လည်း ခင်ပွန်းရဲ့ အမှားအသေးလေးတစ်ခုကို ပြောမဆုံးပေါင် တောသုံးထောင်လိုပါ။ မပြီးတော့ဘူးပြစ်တင်နေတာ။

တချို့ကျတော့လည်း ခင်ပွန်းမိမိရဲ့ အမိန့်နာခံလာစေဖို့ အမလ် တွေလုပ်ကြတယ်။ ပယောဂတွေလုပ်ကြတယ်။ ဒါတွေဟာ ရှုရီအသ်က ခွင့်ပြုမထားတွေဖြစ်ပါတယ်။ အသင်မဟာ ခင်ပွန်းရဲ့ ခန္ဓာကိုတော့ ပယောဂနဲ့ လွှမ်းမိုးအောင်လုပ်နိုင်မယ်။ သူ့ရဲ့နှလုံးသားကိုတော့ လွှမ်း မိုးနိုင်မှာမဟုတ်ဘူး။ သူ့နှလုံးသားကို အမိန့်နာခံခြင်း၊ သစ္စာရှိခြင်းနဲ့၊ ကောင်းတဲ့ကိုယ်ကျင့်တရားတွေနဲ့သာ လွှမ်းမိုးနိုင်မှာဖြစ်တယ်။

**တောင်းပန်ဖို့ ဝန်မလေးနဲ့**

အမှားတစ်ခုခု ကျူးလွန်မိရင်လည်း တောင်းပန်ဖို့ဝန်မလေးရဘူး။ တောင်းပန်လိုက်တာ သိက္ခာကျသွားတာမဟုတ်ဘူး။ သိက္ခာတက်လာ

တာပါ။

**ခင်ပွန်းကို ငဲ့ညှာတတ်ပါစေ**

ခင်ပွန်းသည်စိတ်မကြည်မသာဖြစ်နေရင်လည်း အတင်းစကား ပြောဖို့ ဖိအားမပေးပါနဲ့။ စကားပြန်မပြောတာကိုလည်း တလွဲအဓိပ္ပါယ် မပြန်မိပါစေနဲ့။ ပျော်ရွှင်နေမှသာ နှုတ်ကနေ ပန်းတွေချွေနိုင်မှာပေါ့။ ဟာသတစ်ခုကြားဖူးတယ်။ စိတ်ပျက်လက်ပျက်ဖြစ်နေတဲ့ ခင်ပွန်းကို ဇနီးကတောင်းဆိုတယ်။ ကျွန်မကို စကားတစ်ခုပြောပေးပါ။ အဲ့ဒါကို ကြားပြီး ကျွန်မပျော်လည်းသွားရမယ်။ ဝမ်းလည်းနည်းသွားရမယ်။ ခင်ပွန်းပြောချလိုက်ပုံက "မင်းဟာငါ့ရဲ့ ဘဝပဲ။" ဇနီးအရမ်းပျော်သွား တယ်။ ခင်ပွန်းကဆက်ပြောတယ်။"အလ္လာဟ်ဒီလိုဘဝမျိုးငါ့ကို မချီးမြှင့် ပါစေနဲ့"တဲ့။

ခင်ပွန်းသည်စိတ်ညစ်နေချိန် စိတ်ပျော်လာတဲ့အထိ အချိန်ပေးပါ။ ဒါဟာ အသိဉာဏ်ရှင်မတွေရဲ့ လုပ်ရပ်ပါ။

ခင်ပွန်းတစ်ခုခုမေ့နေရင်လည်း အပြစ်မတင်ပါနဲ့။ ခင်ပွန်းတို့မည် သည်မှာ မေ့တတ်လွန်းလို့ပါ။

ခင်ပွန်းရဲ့ စကားတစ်ခုဟာ အသင်မကို စိတ်ထိခိုက်စေတယ်ဆို ရင် သိမ်မွေ့စွာနဲ့ပဲ တစ်ချိန်ချိန်ပြောပါ။ "လူကြီးမင်းရဲ့ ဘယ်စကား ဟာ ကျွန်မစိတ်ကို ထိခိုက်စေခဲ့တယ်။" ခင်ပွန်းကိုကလေးတစ်ယောက် လို ဆုံးမဩဝါဒချွေတာမျိုး မလုပ်သင့်ပါဘူး။

**ဟင်းကောင်းထမင်းကောင်းနဲ့ဧည့်ခံ**

ခင်ပွန်းသည်ကို အနံ့အရသာနဲ့ ပြည့်စုံတဲ့ ထမင်းဟင်းတွေ ချက်





ကျွေးပါ။ ခင်ပွန်းရဲ့ ဧည့်သည်ကိုလည်း ဝန်ထုပ်လို့ မထင်ပါနဲ့။ (ဧည့်သည်ဆိုတာ အိမ်ရဲ့ မင်္ဂလာကို တိုးပွားစေတဲ့ နိဒ်မသ်တစ်ခုပါ။)

**ဒေါသနဲ့ မပြောရ**

မပြောပလောက်တဲ့ ကိစ္စလေးတွေနဲ့ ခင်ပွန်းကို ပြဿနာမရှာနဲ့။ စကားအချေအတင်လည်း မပြောပါနဲ့။ ဒေါသနဲ့ ရန်တွေ့နေမယ်ဆိုရင်တော့ ပြောင်းပြန်အဖြေတွေပဲရလိမ့်မယ်။ (ဒီလိုအခြေအနေမျိုးတွေမှာ ကွာရှင်းပြတ်စဲပေးဖို့တွေလည်း မတောင်းဆိုမိစေနဲ့။)

**အတွင်းရေး အပြင်မထုတ်နဲ့**

ဇနီးမောင်နှံနှစ်ဦးကြားက သီးသန့်ကိစ္စရပ်တွေကို တခြားလူကို ဖောက်သည်မချမိပါစေနဲ့။ ဇနီးကပြောရင် သူဟာဝက်ထက်ယုတ်ညံ့သူဖြစ်မယ်။ ခင်ပွန်းပြောရင် ခင်ပွန်းက ဝက်ထက်ယုတ်ညံ့သွားမယ်။

**သူစိမ်းအမျိုးသားနဲ့ မဆက်သွယ်မိစေနဲ့**

ပြဿနာကြီးထွားစေမယ့် နောက်ထပ်အကြောင်းခံတစ်ခုကတော့ သူစိမ်းအမျိုးသားတစ်ဦးနဲ့ နှစ်ကိုယ်တည်း စကားပြောတာ၊ ဖုန်းဆက်နေတာမျိုးဖြစ်တယ်။ ဒါဟာအမျိုးသမီးဘက်က ကျူးလွန်တဲ့ အကြီးကျယ်ဆုံးသော အမှားဖြစ်တယ်။ သူ့ရဲ့သေချာတဲ့ နိဂုံးကတော့ မိသားစုပြိုကွဲရတာပါပဲ။ မှတ်ထားလိုက်ပါ။ ခင်ပွန်းဟာ ဇနီးရဲ့ အမှားတိုင်းကို ခွင့်လွှတ်ပေးနိုင်ပါတယ်။ တခြားသူနဲ့ဖောက်ပြန်တာမျိုးကိုတော့ လုံးဝခွင့်လွှတ်ပေးနိုင်မှာမဟုတ်ပါဘူး။ သူစိမ်းအမျိုးသားနဲ့ ဆက်သွယ်မှုပြုတာကို ကျားကြောက်သလို ကြောက်ပါ။ ဒီကိစ္စနဲ့ပတ်သက်ပြီးတော့ ကိုယ့်သမိုင်းကို စွန်းထင်းအောင် မလုပ်မိပါစေနဲ့။ ဇနီးသည်က အပြစ်

ကင်းစင်တဲ့ ဣန္ဒြေရှင်အမျိုးသမီးဖြစ်နေမယ်ဆိုရင် ခင်ပွန်းဟာ သူ့ရဲ့ အခြားသော ခါးသီးတဲ့လုပ်ရပ်တွေကို နားလည်ခွင့်လွှတ်ပေးတတ်ပါတယ်။ လူကြီးမင်းတို့တွေ့မှာပါ။ ကြွေရုပ်လှလှကို ပိုင်ဆိုင်ထားတဲ့ အမျိုးသမီးတွေအများကြီး သွလားက်ပေးခံနေရတယ်။ အကြောင်းခံအနေနဲ့ ကတော့ သူစိမ်းအမျိုးသားနဲ့ ဖုန်းပြောလို့ message တွေလာနေလို့၊ အဆက်အသွယ်တွေထားနေလို့ဆိုတာကို တွေ့ရတယ်။ ခင်ပွန်းသည် သိသွားတာနဲ့ ကွဲပြဲမှုတွေဖြစ်ပြီး အချစ်တွေပြိုလဲသွားမှာပဲ။

အခုပြောခဲ့တာတွေကတော့ ဇနီးမောင်နှံနှစ်ဦးကြား ပြဿနာတွေဖြစ်ပွားစေမယ့် အကြောင်းခံတွေဖြစ်ပါတယ်။

ဒါ့ကြောင့် ခင်ပွန်းရဲ့ ခွင့်မပါဘဲ ဘာမှမလုပ်ပါနဲ့၊ အပြင်လည်း မထွက်ပါနဲ့။ ဟဒီးဆ်တော်တစ်ပုဒ်မှာလာရှိတယ်။ “ခင်ပွန်းသည်ရဲ့ အခွင့်မပါဘဲ အပြင်ကိုထွက်တဲ့အမျိုးသမီးဟာ အိမ်ပြန်မလာမချင်း သူ့ပေါ် ကောင်းကင်တမန်တော်တွေက ကျိန်စာပို့နေမယ်။”. . အခြား ဟဒီးဆ်တော်တစ်ပုဒ်မှာ ဘယ်လောက်ထိမိန့်ထားလဲဆိုရင် ခင်ပွန်းက ဒေါသထွက်နေမှန်းသိလျက်နဲ့ ဇနီးသည်ဟာ မသိချင်ဟန်ဆောင်ပြီး ဂရုမစိုက်ဘဲနေရင် အလ္လာဟ်အရှင်မြတ်က ထိုအမျိုးသမီးရဲ့ နမားဇ် တွေကို လက်ခံမှာမဟုတ်ဘူး။”

အခြေအနေတွေကို လိမ္မာပါးနပ်စွာနဲ့ သုံးသပ်လိုက်နာမယ်ဆိုရင် တော့ ပြဿနာအလုံးစုံဟာလည်း ချုပ်ငြိမ်းသွားလိမ့်မယ်။

အခြားဟဒီးဆ်တော်တစ်ပုဒ်မှာ လာရှိတယ်။ “အိမ်တစ်အိမ်ရဲ့ အပေါ်ထပ်မှာ ဇနီးမောင်နှံနှစ်ဦးနေတယ်။ အောက်ထပ်မှာ မိဘနှစ်ပါး

နေထိုင်ကြတယ်။ တစ်ရက် ခင်ပွန်းသည် ခရီးထွက်သွားတယ်။ ဇနီးကို မှာခဲ့တယ်။ "မင်းအတွက်အရာအားလုံးပြည့်စုံအောင် ငါထားပေးပြီးပြီ။ ဒါ့ကြောင့် အောက်ကိုလုံးဝမဆင်းရဘူး။" ဒီလိုမှာပြီး ခရီးထွက်သွားလိုက်တယ်။ အလ္လာဟ်အရှင်မြတ်ရဲ့ သတ်မှတ်ချက်နဲ့ ဖခင်နာမကျန်းဖြစ်သွားတယ်။ ခင်ပွန်းအမိန့်ကို မြေဝယ်မကျနာခံတဲ့ ဆွဟာဗီအမျိုးသမီးဟာ ခင်ပွန်းရဲ့ မိန့်မှာချက်ကို လေးစားလိုက်နာတယ်။ ကျော်မလုပ်ဘူး။ ကိုယ်တော်မြတ် ﷺ ထံ သဝဏ်လွှာပို့လိုက်တယ်။ ခင်ပွန်းမှာခဲ့တဲ့အတိုင်း အောက်မဆင်းဘဲ အပေါ်မှာပဲနေရမှာလား။ (ခင်ပွန်းကိုလှမ်းဆက်သွယ်နိုင်ဖို့လည်း ဘာအကြောင်းခံမှအဲ့ဒီခေတ်မှာမရှိခဲ့ဘူး။) သို့မဟုတ်ဆင်းပိုင်လား။ ထိုအခါနဗီတမန်တော်မြတ် ﷺ က မိန့်ကြားလိုက်တယ်။"ခင်ပွန်းသည်ရဲ့ အမိန့်အတိုင်းပဲနေ၊အသင်မ မဆင်းနဲ့။" နောက်ဆုံးဖခင်ရဲ့ ရောဂါပိုတိုးလာပြီး အဆုံးမှာ ဖခင်ကြီးလည်း ကွယ်လွန်သွားတော့တယ်။ အဲ့ဒီအချိန်မှာလည်း အမျိုးသမီးက ကိုယ်တော်ထံ သဝဏ်လွှာတစ်စောင်ထပ်ပို့တယ်။ "အို-အလ္လာဟ့်ရဲ့နဗီ ဖခင်ရဲ့မျက်နှာတော်ကို နောက်ဆုံးအကြိမ် ကြည့်ရှုခွင့်ရှိမလား။" ကိုယ်တော်သခင်က အမိန့်တော်ရှိလိုက်တယ်။ "အသင်မရဲ့ခင်ပွန်းက မဆင်းဖို့မိန့်သွားတာဖြစ်တဲ့အတွက် မဆင်းဘဲအပေါ်မှာပဲ နေလိုက်ပါ။" ဒီလိုနဲ့ဆွဟာဗီယာအမျိုးသမီးလည်း အပေါ်မှာပဲ နေရစ်ခဲ့ရှာတယ်။ (သခင်မရင်မှာ ဘယ်လိုအပူတွေခနေမလဲ၊ ဘယ်လောက် သောကဖြစ်နေမလဲ စဉ်းစားကြည့်ကြပါ။)နောက်ဆုံး ဖခင်ရဲ့ဂျနာဇာလည်းပြီးဆုံးသွားတယ်။ မြေမြှုပ်သင်္ဂြိုလ်မှုတွေလည်း ပြီးဆုံးသွားခဲ့တယ်။ နဗီတမန်တော်မြတ်





 က ထိုအမျိုးသမီးထံကို သဝဏ်လွှာပေးပို့တယ်။ "အသင်မဟာ မိမိခင်ပွန်းရဲ့အမိန့်ကိုနာခံခဲ့တာကြောင့် ဖခင်ရဲ့အပြစ်အားလုံးကိုအလ္လာဟ် အရှင်မြတ်က ခွင့်လွှတ်ပေးလိုက်ပြီ"။

**အချစ်နဲ့အရာရာ ကုစားပါ**

အိမ်ထောင်ရေးပြဿနာမီးတွေ ငြိမ်းသတ်ပေးဖို့ အချစ်ထက်ပိုကောင်းတဲ့ သီတာရေအေးမရှိနိုင်ပါဘူး။ အချစ်နဲ့ပဲ အရာရာကို ကုစားလို့ရမှာပါ။

အချစ်ဆိုတာဖန်တီးရယူဖို့ လွယ်တဲ့အရာမဟုတ်ပါဘူး။ အရှင်မြတ်က နှလုံးသားမှာ ထည့်ပေးမှသာ ရနိုင်မှာပါ။ တချို့အမျိုးသမီးတွေက ခင်ပွန်းသူတို့ကို မချစ်တာပဲ တိုင်တန်းကြတယ်။ ခင်ပွန်းချစ်လာစေမယ့်အလုပ်တွေ၊ ဒိုအာတွေပြုဖို့ အဆင်သင့်မရှိကြဘူး။ နှလုံးသားဆိုတာ အရှင်မြတ်ရဲ့ လက်ထဲမှာပဲရှိတာပါ။

အမျိုးသမီးတစ်ယောက် အဝတ်ဗလာ မလုံတလုံ ဝတ်ဆင်၊ အလှပြင်ထားပြီး ကျွန်တော့်ဆီ ခင်ပွန်းချစ်လာအောင် ဒိုအာပြုပေးဖို့ ရောက်လာတယ်။ ကျွန်တော်လည်း ပရ်ဒဟ်နောက်ကွယ်ကနေမေးတယ်။ သူကပြောတယ် "ကျွန်မဟာ အရမ်းလှတဲ့ အလှမယ်ဖြစ်တယ်။ ပညာတတ်လည်းဖြစ်ပါတယ်။ ဒါပေမယ့်ကျွန်မအမျိုးသားဟာ ကျွန်မကို လုံးဝမချစ်သလိုခံစားရတယ်။ " ကျွန်တော်လည်း သူ့ရဲ့အခြေအနေကို ရိပ်စားမိလိုက်တယ်။ သူဟာ နမားဇ်လည်းဖတ်မှာမဟုတ်ဘူး။ အချိန်ပြည့် အပေါင်းသင်းတွေနဲ့ အပြင်မှာ သွားလာစားသောက်နေမှာ။ ပါတီတွေတက်ပြီး ပျော်ပါးတတ်သူဖြစ်မှာ။ ဒီတော့ သူ့ကို ကျွန်

တော်ဆုံးမတယ်။"အသင်မ အလ္လာဟ်အရှင်မြတ်ထံမှာ သောင်ဗဟ်လုပ်ပါ။ ပြီးတော့ခင်ပွန်းချစ်လာစေဖို့ ဒိုအာတောင်းပါ။ ကျွန်တော်လည်းတောင်းပေးပါ့မယ်။" ဒါပေမယ့် ဒီအမျိုးသမီးဟာ စကားနားမထောင်ဘူး သူ့ရဲ့ပြောနေကြ အလှပြင်ကြောင်း၊ သူဟာ ကမ္ဘာ့အလှမယ်တစ်ဦးဖြစ်ကြောင်းတွေပဲပြောနေတယ်။ တည့်တည့်စကားတွေကို နားမလည်တော့ စောင်းစောင်းပြောပေးရတယ်။ သူမကထပ်ပြောတယ်။ ကျွန်မက မိတ်ကပ်တွေကို နိုင်ငံခြားကမှာသုံးတယ်။ အိုင်းလိုင်နာတွေကိုလည်း နိုင်ငံခြားဖြစ်တွေသုံးတယ်။ ရှီရှုယ်ဒိုးတွေပဲသုံးတယ်။ အကောင်းဆုံး ရေမွှေးတွေဆွတ်ဖြန်းတယ်။ ဒါလည်း သူကျွန်မကို မချစ်လာဘူး။ ကျွန်တော်ကပြောလိုက်တယ်။ မိတ်ကပ်တွေနဲ့ ခင်ပွန်းအချစ်ယူလို့ရတယ်လို့ အသင်မကို ဘယ်သူပြောလဲ၊ ခင်ပွန်းအချစ်ဆိုတာ အလ္လာဟ်အရှင်မြတ်နှစ်သက်မှ ရတာ။ အသင်မရဲ့ အလှပြင်ဆင်မှုတွေဟာ ခင်ပွန်းတစ်ယောက်တည်းအတွက်မဟုတ်ဘဲ သူများတွေအတွက်လည်းပါနေတယ်။ အပြင်မှာ အမျိုးသားသူငယ်ချင်းတွေထားတယ်မလား။ သူတို့နဲ့စကားပြောမိတယ်မဟုတ်လား။ စသဖြင့် ကျွန်တော်မေးတယ်။

ပြီးတော့ ကျွန်တော်ရှင်းပြတယ်။ အချစ်စစ်အတွက် လှပခြင်းတွေ၊ အသက်ကွာဟမှုတွေက အခရာမကျလှဘူး။ ကိုယ်တော်မြတ် ﷺ ခဒီဂျာသခင်မကြီးနဲ့ နေကာလုပ်တဲ့အချိန် ကိုယ်တော့်အသက်ဟာ(၂၅)၊ သခင်မကြီးဟာ(၄၀)ကျော်နေပြီ။ အိမ်ထောင်နှစ်ဆက်ကျဖူးခဲ့တယ်။ ဒါပေမယ့်လည်း ကိုယ်တော့်ရဲ့ နှလုံးသားရင်ပြင်မှာ ခိုင်မြဲတဲ့ အချစ်မှတ်တိုင်တစ်ခုတည်ဆောက်နိုင်ခဲ့တယ်။





သခင်မကြီးကွယ်လွန်ပြီးနှစ်အတန်ကြာချိန် မဒီနာကို သခင်မကြီး ရဲ့ ညီမလေးရောက်လာတယ်။ သူ့ရဲ့ စကားသံဟာ ခဒီဂျာသခင်မကြီး ရဲ့ အသံနဲ့အရမ်းကို တူနေတာကို တွေ့လိုက်ရတော့ ကိုယ်တော်က ဒါဘယ်သူလဲ။ ခဒီဂျာသခင်မရဲ့ အသံနဲ့တူပါလား။လို့ မေးတော်မူ တယ်။ မိခင်မွန် အာအေရှာသခင်မ ပြောပြတယ်။ ကျွန်မဒါကိုကြည့်ပြီး အရမ်းကို ခံစားလိုက်ရတယ်။ ချက်ချင်းပဲ ကိုယ်တော့်ကို ပြောချလိုက် တယ်။“အို-ကိုယ်တော်၊သခင့်အနားမှာ ဇနီးငယ်လေးတွေရှိနေပါလျှက် နှစ်အတန်ကြာက အဖွားအိုကို သတိရနေတုံးပဲလား။” ကိုယ်တော်မြတ် ﷺ သခင် မျက်လုံးအစုံမှာ မျက်ရည်တွေဝဲလာပြီးမိန့်တယ်။ “အို-အာ အေရှာ လူတွေလမ်းမှားမှုရဲ့ အမှောင်တိုက်ထဲမှာရှိနေစဉ် ခဒီဂျာရဲ့ ရင်တွင်းမှာ အီမာန့်ရဲ့ အလင်းတွေ ဖြာဆင်းနေခဲ့တယ်။ လောကမှာ ငါ့ကိုကူညီဖေးမပေးမယ့်သူမရှိချိန် သူကပဲဖေးမကူညီခဲ့တာ။ ဒါ့ကြောင့် အလ္လာဟ်အရှင်မြတ်ကလည်း ငါ့နှလုံးသားထဲမှာ သူ့အချစ်တွေထည့် ပေးထားတယ်။ သူ့ကို ဒီနေ့လည်းမေ့မရနိုင်ဘူး။”

ဟဒီးဆ်တော်အရ အချစ်ဆိုတာ အလ္လာဟ်အရှင်မြတ်က နှလုံး သားမှာ ထည့်ပေးတဲ့ ရတနာတစ်ပါးဖြစ်တယ်ဆိုတာ သိရပါတယ်။

အသင်မက အလ္လာဟ်အရှင်မြတ်ကို စိတ်ဆိုးအောင်လုပ်မယ်ဆို ရင် တလောကလုံးကလည်း အသင်မကို စိတ်ဆိုးနေလိမ့်မယ်။ တနေ့ လုံး ခင်ပွန်းရဲ့ အချစ်တွေမျှော်လင့်တောင်းတနေမယ် ရမှာမဟုတ်ဘူး။ အလ္လာဟ်အရှင်မြတ်ထံမှာ ဝန်ချတောင်းပန်လိုက်ပါ။ ခင်ပွန်းချစ်လာ မယ်။ အိမ်သာယာလာမယ်။ စိတ်တွေတည်ငြိမ်အေးချမ်းလာမယ်။

ချက်ချင်းအမျိုးသမီးလည်း နားလည်သွားတယ်။ "ကျွန်မအတိတ်မှာ ကျူးလွန်မိသမျှတွေကနေ သောင်ဗဟ်လုပ်ပါပြီ။ နမားဇ်(၅)ကြိမ်လည်း ဖတ်ပါတော့မယ်။" တစ်နှစ်တောင် မပြည့်လိုက်ပါဘူး။ ထိုအမျိုးသမီးဟာ ဖုန်းဆက်လာတယ်။ "ကျွန်မဟာ လောကမှာတင် ဂျန္နသ်ရနေပါပြီ။ အလ္လာဟ်အရှင်မြတ်က ခင်ပွန်းသည်ရဲ့ နှလုံးသားကို ကျွန်မအချစ်တွေနဲ့ ဖြည့်ပေးလိုက်ပြီ။"

အချုပ်ပြောရရင်တော့ ဒီစကားလေးတွေဟာ ရိုးရှင်းလှပါတယ်။ အသေးအဖွဲလေးတွေပါ။ ဒါပေမယ့် ကြီးမားတဲ့ ပြဿနာတွေကို ကုစားနိုင်စွမ်းရှိပါတယ်။ အလ္လာဟ့်အမိန့်နာခံရင် လိုရာအချစ်တွေရလာမယ်။ အိမ်ထောင်ရေးတွေ သာယာလာမယ်။

အားလုံးလိုက်နာကြလိမ့်မယ်လို့ မျှော်လင့်ပါတယ်။ သာယာလှပတဲ့ အိမ်ထောင်မှုဘဝကို ပိုင်ဆိုင်နိုင်ပါစေ။ အလ္လာဟ်အရှင်မြတ်၊ အမျိုးသမီးအားလုံးကို အိမ်ထောင်ရေး ကံကောင်းသူများအဖြစ် ပြုလုပ်ပေးသနားတော်မူပါစေ။

وآخر دعوانا أن الحمد لله رب العالمين .